မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့်တင်ပြလာသောရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်
(ယခင်တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်)၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၅-၁-၂၀၁၆ | - | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁၈-၂-၂၀၁၆ | ၁၇-၃-၂၀၁၆ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန | ၁၈-၂-၂၀၁၆ | ၇-၃-၂၀၁၆ | |
| | - စက်မှုဝန်ကြီးဌာန | ၁၈-၂-၂၀၁၆ | ၄-၃-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်း အဝေးတင်ပြခြင်း (၇/၂၀၁၆) | ၁၆-၂-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းပြန်ကြားခြင်း | ၁၆-၂-၂၀၁၆ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၂၄-၂-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှပြင်ဆင်ပြီးအဆိုပြုလွှာပေးပို့ခြင်း | ၂၄-၃-၂၀၁၆ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | (၅၉)ရက် | | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရွှေတော်ဝင်မြတ်ကုမ္ပဏီ လီမိတက် (ယခင်တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်)မှ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက် (ယခင်တော်ဝင်ဟိန်း ကုမ္ပဏီ လီမိတက်) (Golden Royal Myat Company Limited) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်အေးအေးလွင် (အဘ-ဦးအောင်ငါး) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း)ပိုင် မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ်၊ (၉x၁၀)လမ်းကြား၊ (၇၇x၇၈)လမ်းကြားရှိ ဆပ်ပြာစက်ရုံ (မန္တလေး) |
| | မြေပိုင်ရှင် | - စက်မှုဝန်ကြီးဌာန၊မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင်မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း) |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၅.၄၅၄၆ ဧက (၂၂၀၇၄ စတုရန်း မီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၁၀၀ပေx၁၀၀ပေx၂၇ပေ (တစ်ထပ်အဆောက်အဦ၁လုံးဆောက်လုပ်မည်ဖြစ်ပါသည်။) |
| | မြေငှားသက်တမ်း | - ၂၀ နှစ် |
| | နှစ်စဉ်မြေနှင့်အဆောက်အဦငှားရမ်းခ | - ကျပ် ၁၂၂.၄ သန်း |
| | | - ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၄) ၏ ခွင့်ပြုချက်အရ ၅+၁၅ နှစ် ဖြင့် ငှားရမ်းဆောင်ရွက်လျက်ရှိပါသည်။ |
| | | - ၁-၃-၂၀၁၂မှ စတင် ငှားရမ်းစာချုပ် ချုပ်ဆို၍ ၁-၃-၂၀၃၂ အထိ လက်ကျန်သက်တမ်း ၁၆နှစ်ကျန်ရှိပါသည်။ |
| | လုပ်ငန်းဆောင်ရွက်မှုအာမခံ(PBG) | - တစ်နှစ်ငှားရမ်းခနှုန်းထား၏ ၁၀% |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **- ကျပ် ၂၉၃၀.၆၇ သန်း (US$ ၀.၄၀ သန်း အပါအဝင်)** |
| | -ငွေသား | ကျပ် ၁၀၃၈.၄၇ သန်း |
| | - မြေနှင့်အဆောက်အဦငှားရမ်းခ | ကျပ် ၆၁၇.၂၀ သန်း |
| | - အဆောက်အဦအသစ်တန်ဖိုး | ကျပ် ၅၀၀.၀၀ သန်း |
| | - အဆောက်အဦမွမ်းမံခြင်းတန်ဖိုး | ကျပ် ၂၅၀.၀၀ သန်း |
| | -စက်နှင့် စက်ပစ္စည်းတန်ဖိုး(ပြည်ပ) | ကျပ် ၅၀၀.၀၀ သန်း (US$ ၀.၄၀ သန်း) |
| | -ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ကျပ် ၂၅.၀၀ သန်း |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၂၀ နှစ် |

| | | | |
|---|---|---|---|
| ၇။ | တည်ဆောက်ရေးကာလ | - ၁နှစ် | |
| ၈။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% | |
| ၉။ | ထုတ်လုပ်မှုနှင့်ရောင်းချမှု (၆နှစ်မြောက်) | | |
| | **အမျိုးအမည်** | **ထုတ်လုပ်မှု(Ton)** | **ရောင်းဈေးနှုန်း(Kyats/Ton)** |
| | ရွှေဝါဆပ်ပြာ(မန်းရွှေဝါ) | ၃,၇၅၀ | ၆၉၆ |
| | ကာဘော်လစ်ဆပ်ပြာ | ၁,၀၀၀ | ၇၁၅ |
| | ကိုယ်တိုက်ဆပ်ပြာ(မွှေး) | ၁,၁၄၀ | ၁၄၄၀ |
| ၁၀။ | ဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၄၉၆၆.၆၀ သန်း | |
| | အသုံးစရိတ်(၆ နှစ်မြောက်) | ကျပ် ၄၅၆၃.၉၃ သန်း | |
| | အသားတင်အမြတ်(၆ နှစ်မြောက်) | ကျပ် ၄၀၂.၆၇ သန်း | |
| ၁၁။ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်) | - ၁၆၆ ဦး | |
| | ပြည်တွင်း | ၁၆၃ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၅၀၀,၀၀၀)<br>***ပြည်တွင်းဝန်ထမ်းအင်အားစာရင်းတွင် စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းရယူထားသော ဝန်ထမ်း ၈၅ဦး အပါအဝင် ဖြစ်ပါသည်။** | |
| | ပြည်ပ | - ၃ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$၈၀၀ ဖြစ်ပါသည်။) | |
| ၁၂။ | အရင်းကြေကာလ | - ၅ နှစ် ၈လ | |
| ၁၃။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - ၁၈.၂၃ % | |
| ၁၄။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ်(၆ နှစ်မြောက်)<br>-ဝင်ငွေခွန်<br>-ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၁၃၄.၂၂ သန်း<br>- ကျပ် ၂၃၆.၅၀ သန်း<br>(အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် မြန်မာကျပ်ငွေ ၁၂၅၀ နှုန်း ဖြင့်တွက်ချက်ထားပါသည်) | |
| ၁၅။ | နှစ်စဥ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၂၄၀၀၀၀ ယူနစ် | |
| ၁၆။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထား အဖြစ် United Amara Bank Ltd. (Pazundaung Branch)တွင် ဒေါ်အေးအေးလွင် အမည်ဖြင့် ၂၁-၃-၂၀၁၆ နေ့ တွင် ငွေလက်ကျန် ကျပ် ၇၄၅,၉၂၁,၇၆၁.၇၈ ရှိကြောင်း တင်ပြထားပါသည်။<br>- ကုမ္ပဏီ၏ အမြတ်ငွေထဲမှ CSR အတွက် ၂% သုံးစွဲမည်ဖြစ်ကြောင်းဖော်ပြထားပါသည်။ | |

| | | |
|---|---|---|
| ၁၇။ | စိစစ်တင်ပြချက် | - မြန်မာ့ဆေးဝါးလုပ်ငန်းရှိ ဆပ်ပြာစက်ရုံ (မန္တလေး)အား တော်ဝင်ဟိန်း ကုမ္ပဏီလီမိတက် (Royal Hein Co.,Ltd.) အစား ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်(Golden Royal Myat Co.,Ltd.) အမည်ဖြင့် ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် ထောက်ခံကြောင်းစာအား စက်မှုဝန်ကြီးဌာနမှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံးသို့ပေးပို့ထားပါသည်။<br><br>စက်မှုဝန်ကြီးဌာန၊မြန်မာ့ဆေးဝါးလုပ်ငန်းနှင့် ရွှေတော်ဝင်မြတ် ကုမ္ပဏီ လီမိတက် (ယခင်တော်ဝင်ဟိန်း ကုမ္ပဏီလီမိတက်) တို့ချုပ်ဆိုမည့် ဆပ်ပြာစက်ရုံ (မန္တလေး)အား ငှားရမ်း ဆောင်ရွက်သည့် သဘောတူစာချုပ် (မူကြမ်း)အားပြည်ထောင်စုရှေ့နေချုပ်ရုံး ၏ သဘောထားမှတ်ချက်နှင့်အတူ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက် (ယခင်တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်) |
| အဖွဲ့အစည်းပုံသဏ္ဍာန် | - | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း)ပိုင် မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ်၊(၉x၁၀)လမ်းကြား၊(၇၇x၇၈)လမ်းကြား ရှိဆပ်ပြာစက်ရုံ(မန္တလေး)၏ မြေဧရိယာ(၅.၄၅၄၆)ဧက(၂၂၀၇၄စတုရန်းမီတာ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၂၉၃၀.၆၇ သန်း (US$ ၀.၄၀ သန်း အပါအဝင်) |
| ရောင်းချမည့်စနစ် | - | ပြည်တွင်း ၁၀၀% |
| လုပ်ငန်းသက်တမ်း | - | ၂၀ နှစ် |
| အရင်းကြေကာလ | - | ၅ နှစ် ၈လ |
| IRR | - | ၁၈.၂၃ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၃.၀၀ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၅.၀၀ | - |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | ၁၄၇၁.၉၄ |
| ၅ | ဝင်ငွေခွန် | ၆၇၁.၁၀ | ၁၀၇၃.၇၆ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၁၉၅.၈၄ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၄၅)ဦး |
| ၈ | CSR (၂%) | - | ၄၀.၇၇ |
| ၉ | မြေနှင့်အဆောက်အဦ ငှားရမ်းခရငွေ | | ၁၄၆၈.၈၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၁၆၃) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | စုစုပေါင်း | ကျပ် ၆၈၉.၁၀ သန်း | ကျပ် ၄၂၅၂.၂၈ သန်း |
| | Cost : Benefit | ၁ :၆ | |

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၃/မ-၁၃၂၄/၂၀၁၆(၄၅၃ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၂ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက် (ယခင်တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်)မှ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

၁။ ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက် (ယခင် တော်ဝင်ဟိန်း ကုမ္ပဏီလီမိတက်)သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း(ယခင် မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း)ပိုင် မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ်၊ (၉x၁၀) လမ်းကြား၊ (၇၇x၇၈) လမ်းကြားရှိ ဆပ်ပြာစက်ရုံ (မန္တလေး)၏ မြေဧရိယာ ၅.၄၅၄၆ ဧက(၂၂၀၇၄စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများ၊ စက် ပစ္စည်းများအားငှားရမ်း၍ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးလွင် (အဘ-ဦးအောင်ငါး)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်ခွင့်အတွက် ပြည်ထောင်စုအစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဉ် ၁/၂၀၁၄ (၉-၁-၂၀၁၄) အရ ၅+၅ နှစ် ခွင့်ပြုထားပါသည်။ ငှားရမ်းသက်တမ်းမှာ ၁-၃-၂၀၁၂ မှ ၂၈-၂-၂၀၃၂ နေ့အထိဖြစ်ပြီး လက်ကျန်သက်တမ်းမှာ ၁၆ နှစ်ခန့်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၁နှစ် ဖြစ်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ မြေဧရိယာ ၅.၄၅၄၆ ဧက(၂၂၀၇၄စတုရန်းမီတာ)အတွက် ကျပ် ၁၂၂.၄၀၀ သန်း ဖြစ်ပါသည်။ အဆိုပြုချက် နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ မူလ ရင်းနှီးမြှုပ်နှံမှု တန်ဖိုး ကျပ်၉၃၀.၆၇သန်း အပြင် ထပ်မံ၍ ကျပ်၂၀၀၀.၀၀ သန်း ရင်းနှီးမြှုပ်နှံသဖြင့် အမေရိကန် ဒေါ်လာ ၀.၄၀ သန်း အပါအဝင် စုစုပေါင်း ကျပ်၂၉၃၀.၆၇သန်း ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | မူလရင်းနှီးမြှုပ်နှံမှု (ကျပ်/သန်း) | ထပ်မံတိုးမြှင့်သည့် ရင်းနှီးမြှုပ်နှံမှု (ကျပ်/သန်း) | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု (ကျပ်/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၄၃၅.၈၇ | ၆၀၂.၆၀ | ၁၀၃၈.၄၇ |
| (ခ) | မြေနှင့်အဆောက်အဦငှားရမ်းခ | ၄၉၄.၈၀ | ၁၂၂.၄၀ | ၆၁၇.၂၀ |
| (ဂ) | အဆောက်အဦအသစ်တန်ဖိုး | | ၅၀၀.၀၀ | ၅၀၀.၀၀ |
| (ဃ) | အဆောက်အဦမွမ်းမံခြင်းတန်ဖိုး | | ၂၅၀.၀၀ | ၂၅၀.၀၀ |
| (င) | စက်နှင့် စက်ပစ္စည်းတန်ဖိုး (ပြည်ပ) | | | ၅၀၀.၀၀ (US$ ၀.၄၀ သန်း) |
| (စ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | | ၂၅.၀၀ | ၂၅.၀၀ |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ၉၃၀.၆၇ | ၂၀၀၀.၀၀ | ၂၉၃၀.၆၇ (US$ ၀.၄၀ သန်းအပါအဝင်) |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၁၆၃ ဦး နှင့်ပြည်ပမှ ဝန်ထမ်း ၃ ဦး စုစုပေါင်း ၁၆၆ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပမှ ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၈၀၀ ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းအင်အားစာရင်းတွင် စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းရယူထားသော ဝန်ထမ်း ၈၅ဦး အပါအဝင် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ဆပ်ပြာအမျိုးမျိုးကို ပြည်တွင်း ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်(၆-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းချမည့် ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| အမျိုးအမည် | ထုတ်လုပ်မှု(Ton) | ရောင်းဈေးနှုန်း(Kyats/Ton) |
|---|---|---|
| ရွှေဝါဆပ်ပြာ(မန်းရွှေဝါ) | ၃,၇၅၀ | ၆၉၆ |
| ကာဘော်လစ်ဆပ်ပြာ | ၁,၀၀၀ | ၇၁၅ |
| ကိုယ်တိုက်ဆပ်ပြာ(မွှေး) | ၁,၁၄၀ | ၁၄၄၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄၉၆၆.၆၀ |
| (ခ) | အသုံးစရိတ် | ၄၅၆၃.၉၃ |
| (ဂ) | အသားတင်အမြတ် | ၄၀၂.၆၇ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၃၄.၂၂ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ ကျပ် ၂၃၆.၅၀ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် ၈လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၁၈.၂၃ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၅၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၈။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိ မြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိခြင်း၊ မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေသဖြင့် (၁၁-၃-၂၀၁၆)ရက်နေ့ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၈/၂၀၁၆) ဆုံးဖြတ်ချက် အပိုဒ်(၅၀၃)အရ ကန့်ကွက်ရန်မရှိကြောင်းနှင့် ဆောင်ရွက်သင့်သည့် လုပ်ငန်းတစ်ခု ဖြစ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ (နောက်ဆက်တွဲ-က)

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေး အကျိုးပြု လုပ်ငန်းများ (Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်း(Environmental Impact Assessment -EIA)ကို ဆောင်ရွက်ပြီး အစီရင်ခံစာ ရေးသားပြုစုတင်ပြရန်။

(၃) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန်နှင့် လူတို့၏ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့် လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။ **ကုမ္ပဏီမှ EIA,EMP အစီရင်ခံစာ ရေးဆွဲတင်ပြမည်ဖြစ်ကြောင်းဝန်ခံကတိပြုထားပါသည်။** **(နောက်ဆက်တွဲ - ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန**၏ လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ကြောင်းနှင့် ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှုရှိကြောင်း သဘောထားပြန်ကြားထားပါသည်။ (နောက်ဆက်တွဲ - ဂ)

၉။ ကျပ်ငွေ အထောက်အထား အဖြစ် United Amara Bank Ltd. (Pazundaung Branch)တွင် ဒေါ်အေးအေးလွင် အမည်ဖြင့် ၂၁-၃-၂၀၁၆ နေ့ တွင် ငွေလက်ကျန် ကျပ် ၇၄၅,၉၂၁,၇၆၁.၇၈ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ဝန်ထမ်း၏ လစာနှင့် ပတ်သက်၍ နိုင်ငံတော်မှ ချမှတ်ထားသော လစာဝင်ငွေခွန် ဥပဒေအတိုင်း ဝင်ငွေခွန် ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ဝန်ထမ်းများအား လူမှုဖူလုံရေးဥပဒေအရ ခံစားခွင့်များ အပြည့်အဝခံစားနိုင်ရန်အတွက် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ ကျန်းမာရေးနှင့် ကိုက်ညီသည့် အာဟာရပြည့် အစားအစာများ လုပ်ငန်းချိန်အလိုက် ကျွေးမွေးမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ ကျန်းမာရေး၊ သာရေး၊ နာရေးနှင့် ဝန်ထမ်းများ၏ သားသမီးများ ပညာရေးကိုလည်း ထိရောက်စွာ ထောက်ပံ့ပေးမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် Generator 100KV ဖြင့် လျှပ်စစ်မီးအစားထိုးသုံးစွဲမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ နှစ်စဉ်အသားတင်အမြတ်၏(၂)%ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR)အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်နေ့တွင် ကျင်းပသော (၇/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**စိစစ်တင်ပြချက်**

၁၆။ (က) မြန်မာ့ဆေးဝါးလုပ်ငန်းရှိ ဆပ်ပြာစက်ရုံ(မန္တလေး)အား တော်ဝင်ဟိန်း ကုမ္ပဏီ လီမိတက် (Royal Hein Co.,Ltd.) အစား ရွှေတော်ဝင်မြတ် ကုမ္ပဏီ လီမိတက် (Golden Royal Myat Co.,Ltd.)အမည်ဖြင့် ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် ထောက်ခံကြောင်းစာအားစက်မှုဝန်ကြီးဌာနမှမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံးသို့ပေးပို့ထားပါသည်။

(ခ) ယခင်တင်ပြခဲ့သော တော်ဝင်ဟိန်း ကုမ္ပဏီ လီမိတက် သည် ၂-၁-၂၀၀၈ ရက်စွဲဖြင့် ကုမ္ပဏီမှတ်ပုံတင်လက်မှတ်အမှတ် ၁၃၃၈/၂၀၀၇-၂၀၀၈ဖြင့် မှတ်ပုံတင် လက်မှတ်

ရရှိထားပါသည်။ တော်ဝင်ဟိန်း ကုမ္ပဏီလီမိတက် အစား ရွှေတော်ဝင်မြတ်ကုမ္ပဏီ လီမိတက်အမည်ဖြင့် ပြောင်းလဲဆောင်ရွက်ခြင်းအား စက်မှုဝန်ကြီးဌာနမှ တဆင့် တင်ပြလာခြင်းဖြစ်ပါသည်။ ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်သည် ၂၅-၁-၂၀၁၆ ရက်စွဲတွင် ကုမ္ပဏီမှတ်ပုံတင် လက်မှတ်အမှတ် ၃၃၀၅/၂၀၁၅-၂၀၁၆ (ရက)ဖြင့် မှတ်ပုံတင်ထားကြောင်းစိစစ်တွေ့ရှိရပါသည်။

(ဂ) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန် လုပ်ငန်း)ပိုင် ဆပ်ပြာစက်ရုံ (မန္တလေး) ကို နေ့တွင် ကျင်းပပြုလုပ်သော **ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၃၃/၂၀၁၂(၁၀-၈-၂၀၁၂)** သဘောတူ ခွင့်ပြုချက်အရ ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်သို့ **၁-၃-၂၀၁၂ မှ၂၈-၂-၂၀၁၇ အထိ ၅ နှစ်** ငှားရမ်းဆောင်ရွက်ခဲ့ပြီး **ပြည်ထောင်စု အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် ၁/၂၀၁၄ (၉-၁-၂၀၁၄)** သဘောတူ ခွင့်ပြုချက် အရ ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်သို့ မူလငှားရမ်းသက်တမ်း ၅ နှစ်မှ ထပ်မံ သက်တမ်းတိုးခြင်းကို **၁-၃-၂၀၁၇မှ ၂၈-၂-၂၀၃၂ အထိ ၁၅နှစ်** ခွင့်ပြုထားပါသည်။စုစုပေါင်း ၁-၃-၂၀၁၂ မှ ၂၈-၂-၂၀၃၂ အထိ ၂၀နှစ် ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန် လုပ်ငန်း)ပိုင် ဆပ်ပြာစက်ရုံ(မန္တလေး)အား ငှားရမ်းသည့် သဘောတူစာချုပ်ကို စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန် လုပ်ငန်း)နှင့် ရွှေတော်ဝင်မြတ် ကုမ္ပဏီ လီမိတက်တို့မှ ၂၈-၂-၂၀၁၂ ရက်နေ့တွင် ချုပ်ဆိုခဲ့ပြီး အဆောက်အဦ ၂၅လုံးပါရှိပါသည်။ ငှားရမ်းခအနေဖြင့် **တစ်နှစ်လျှင် ကျပ် ၁၂၀ သန်း** ဖြစ်ပါသည်။

(င) ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ် သက်တမ်းတိုးမြှင့်သည့် တတိယအကြိမ် ပြင်ဆင်သည့် သဘောတူစာချုပ်(မူကြမ်း)အား ၅၀+၁၀+၁၀ သက်တမ်းတိုး ငှားရမ်းလို ခြင်းကြောင့် ထပ်မံချုပ်ဆိုရခြင်း ဖြစ်ပါသည်။ ၎င်း တတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ် (မူကြမ်း)အား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် နှင့်အညီ ပြင်ဆင် တင်ပြထားပါသည်။

(စ) ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်သည် တစ်နှစ်ငှားရမ်းခ ၏ ၁၀%နှင့် ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှု အာမခံ (Performance Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေးဘဏ် (နေပြည်တော်)တွင် အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်း ကိုဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်းတွင်သိမ်းဆည်းထားရှိရမည်ဖြစ်ကြောင်း ဖော်ပြ ထားပါသည်။

(ဆ) တော်ဝင်ဟိန်း ကုမ္ပဏီလီမိတက် (Royal Hein Co.,Ltd.)၏ ၂၀၁၀-၂၀၁၁၊ ၂၀၁၂-၂၀၁၃၊ ၂၀၁၃-၂၀၁၄၊ ၂၀၁၄-၂၀၁၅ စည်းကြပ်နှစ်များအတွက်ဝင်ငွေခွန် ထမ်းဆောင် ထားသည့် အထောက်အထားများတင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက် (ယခင် တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်)သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း) ပိုင် မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ်၊ (၉x၁၀) လမ်းကြား၊ (၇၇x၇၈)လမ်းကြားရှိ ဆပ်ပြာစက်ရုံ (မန္တလေး)၏ မြေဧရိယာ(၅.၄၅၄၆)ဧက (၂၂၀၇၄ စတုရန်းမီတာ)အား ငှားရမ်း၍ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ ( ၀၇၆ )
ရက် စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၁၇ ရက်

သို့
ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈.၂.၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက - ၃ / မ - ၁၃၂၄ / ၂၀၁၆( ၂၇၂)

၁။ အောင်မြေသာစံမြို့နယ်၊ အမရဋ္ဌာနီအရှေ့ရပ်ကွက်၊ (၉×၁၀)လမ်းကြား၊ (၇၇×၇၈)လမ်းကြားရှိ စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း(ယခင်မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း)ပိုင် ဆပ်ပြာစက်ရုံ(မန္တလေး)၏ မြေဧရိယာ (၅.၄၅၄၆) ဧက( ၂၂၀၇၄ စတုရန်းမီတာ)အား ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက် က ငှားရမ်း၍ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားစိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် သို့ရှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် မြေနေရာနှင့်ပတ်သက်၍ ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ခဲ့ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) **နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ** နှင့်ပတ်သက်၍ လွန်ခဲ့သော နှစ်ပေါင်းများစွာကပင် စက်မှုဝန်ကြီးဌာနက ဆပ်ပြာစက်ရုံအဖြစ် ဆောင်ရွက်အသုံးပြုခဲ့သည့်အတွက် နောင်ပြုလုပ်မည့်/လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိကြောင်း၊

(ခ) **မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/ မဖြစ်** နှင့်ပတ်သက်၍ စက်မှုဝန်ကြီးဌာနမှ နိုင်ငံ့ဝန်ထမ်း (၈၅)ဦးရှိသည့်အပြင် နေ့စား၊ လစားဝန်ထမ်းများ ခန့်ထား ဆောင်ရွက်မည်ဖြစ်သဖြင့် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိလာကာ ဒေသတွင်း စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ဖြစ်စေနိုင်သည့် သွင်းကုန်အစားထိုးလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ခြင်းကြောင့် နိုင်ငံခြားငွေသုံးစွဲမှုကို လျှော့နည်းကျဆင်းစေခြင်း၊ အရည်အသွေး ကောင်းမွန်သော ဆပ်ပြာအမျိုးမျိုးကို ဈေးနှုန်းသက်သာစွာ ဝယ်ယူရရှိနိုင်မည် ဖြစ်ခြင်းတို့ကြောင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအထောက် အကူဖြစ်နိုင်ပါကြောင်း ၊

(ဂ) **အဆိုပြု မြေနေရာကို စက်ရုံအတွက်သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ** နှင့်ပတ်သက်၍ ဆပ်ပြာထုတ်လုပ်ခြင်းမှ ထွက်ရှိသော ရေများအား (meutralization)ပြုလုပ်၍ ရေနှင့် ရေစပ်ပြီး စစ်ကန် (Setting Tank) အဆင့်ဆင့်သို့ အနည်ချပြီးမှ(Drain)တွင် စွန့်ပစ်မှုကိုပြုလုပ်ခြင်း၊ လုပ်ငန်းစဉ်အားလုံး တွင် အသံဆူညံပြီး ပတ်ဝန်းကျင်ထိခိုက်သော အသံနှင့်အခိုးအငွေ့ ဖြစ်ပေါ်ခြင်းတို့ မရှိ စေရန် စနစ်တကျဆောင်ရွက်ထားရှိခြင်း၊ဆပ်ပြာတွင်အသုံးပြုသော ဆီများမှာ သတ်မှတ်စံချိန်စံညွှန်းနှင့်အညီ စစ်ဆေးလက်ခံသုံးစွဲသည့်အတွက် အနံ့ဆိုးများ ထွက်ပေါ်မှုမရှိခြင်းတို့အပြင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အကျိုးပြုလုပ်ငန်းများကို ဒေသခံများနှင့်ပူးပေါင်းဆောင်ရွက်ခြင်းတို့ကြောင့် ဒေသခံများနှင့် စိတ်ချမ်းမြေ့စွာ ပူးပေါင်းဆောင်ရွက်နေသည်ကို တွေ့ရှိရ၍ လက်ခံနိုင်ခြင်းရှိပါကြောင်း ၊

(ဃ) **လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်/ မဟုတ်** နှင့်ပတ်သက်၍ အဆိုပြု မြေနေရာသည် စက်မှုဝန်ကြီးဌာနမှ လွှန်ခဲ့သော နှစ်ပေါင်းများစွာကပင် ရင်းနှီးမြှုပ်နှံမှုများပြုလုပ်၍ စက်ရုံတည်ဆောက်ပြီး ဆောင်ရွက်ခဲ့သော လုပ်ငန်းတစ်ခု ဖြစ်ပါသဖြင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်နိုင်သည့် မြေနေရာ ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ **သီးခြားအကြံပြုရန်မရှိပါ ။**

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်မည့် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်ပြီး (၁၁.၃.၂၀၁၆) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၈/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ် (၅၀၃)အရ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

**မိတ္တူကို**

လှည့်လည်စာတွဲ ၊
ရုံးလက်ခံ ။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

၅-၄၃
၁၈/၃

စာအမှတ်၊၂၁-စမ(၂)၂၀၁၅-၂၀၁၆ (၄၃၈၃)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ-၁၃၂၄/ ၂၀၁၆(၂၇၁)

၁။ ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း)ပိုင် မန္တလေးတိုင်း ဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ်၊ (၉×၁၀)လမ်းကြား၊ (၇၇×၇၈)လမ်းကြားရှိ ဆပ်ပြာစက်ရုံ(မန္တလေး)တွင် ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ကုမ္ပဏီအနေဖြင့် ပြည်ပမှ Soap Finishing Line ထပ်မံတင်သွင်းမည်ဟု တင်ပြထားရာ ထုတ်လုပ်မှုအတွက် သင့်လျော်မှု ရှိပါသည်။

(စ) ကုန်ကြမ်းသုံးစွဲမှုနှင့် ကုန်ချောထွက်ရှိမှု တင်ပြထားချက် ကိုက်ညီမှုရှိပါသည်။

၃။ သို့ပါ၍ ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်မှ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၄. ၃. ၂၀၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(တင်ဝင်း၊ လက်ထောက်အတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

စက်မှုဝန်ကြီးဌာန

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

M. 379
28/2

စာအမှတ်၊ ၂၃-စမ(၂)၂၀၁၅-၂၀၁၆(၃၆၅၄-က)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **ဆပ်ပြာစက်ရုံ(မန္တလေး)၏ ငှားရမ်းကုမ္ပဏီအမည်ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ**

ရည် ညွှန်း ချက်။ စက်မှုဝန်ကြီးဌာန၏ ၁၈.၁.၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၂၃-စမ(၂)၂၀၁၅-၂၀၁၆ (၃၆၅၄)

၁။ စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းရှိ ဆပ်ပြာစက်ရုံ(မန္တလေး)ကို တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်သို့ မူလငှားရမ်းကာလ(၅+ ၁၅)နှစ်အစား (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်ပါစာဖြင့် တင်ပြခဲ့ပါသည်။

၂။ တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်အနေဖြင့် ကုမ္ပဏီအမည်အား တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်(Royal Hein Co., Ltd.)အစား ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်(Golden Royal Myat Co., Ltd.)အမည်ဖြင့် ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါသည်။

၃။ အဆိုပါ ကုမ္ပဏီအနေဖြင့် အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနမှလည်း ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက် (Golden Royal Myat Co., Ltd.) အမည်ဖြင့် ကုမ္ပဏီမှတ်ပုံတင်လက်မှတ်ရရှိထားပြီးဖြစ်ပါသည်။ ၎င်းစာမိတ္တူကို ပူးတွဲဖော်ပြအပ်ပါသည်။

၄။ သို့ပါ၍ မြန်မာ့ဆေးဝါးလုပ်ငန်းရှိ ဆပ်ပြာစက်ရုံ(မန္တလေး)အား တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်(Royal Hein Co., Ltd.)အစား ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်(Golden Royal Myat Co., Ltd.)အမည်ဖြင့် ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် ထောက်ခံပေးပို့အပ်ပါသည်။

၂၅.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
မြန်မာ့ဆေးဝါးလုပ်ငန်း

M-497
7/3/16



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/၀၁(၃၁/၁၆)
ရက် စွဲ ၂၀၁၆ခုနှစ် မတ် လ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်မှ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၃/ မ-၁၃၂၄/ ၂၀၁၆(၂၇၀)

၁။ တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း(ယခင်မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း)ပိုင်၊ မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ်၊ (၉×၁၀)လမ်းကြားနှင့်(၇၇×၇၈)လမ်းကြားရှိ ဆပ်ပြာစက်ရုံ(မန္တလေး)၏ မြေဧရိယာ ၅.၄၅၄၆ဧက(၂၂၀၇၄စတုရန်းမီတာ)အားငှားရမ်း၍ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက်မှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)ဖြစ်ပြီး သက်တမ်းတိုး(၁၀)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ ထုတ်လုပ်မှုပမာဏမှာပထမနှစ်တွင် ရွှေဝါဆပ်ပြာ ကာဘော်လစ်ဆပ်ပြာ၊ မွှေးကိုယ်တိုက်ဆပ်ပြာ ၄၇၁၂တန်မှ(၁၀)နှစ်အတွင်း ၅၈၉၀တန်အထိ တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကာကွယ်မှုအစီအစဉ်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသော အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးအကျိုးပြုလုပ်ငန်းများ( Corporate Social Responsibility-CSR )လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ စက်ရုံမှထွက်ရှိသည့် စွန့်ပစ်ပစ္စည်း

နှင့်အမှိုက်များ၊ ညစ်ညမ်းရေများအား မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ ညွှန်ကြားချက်များနှင့်အညီစနစ်တကျစွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိခိုက်စေမည့် လေထုညစ်ညမ်းမှုနှင့်မြေဆီလွှာထိခိုက်များမဖြစ်စေရန် လိုအပ်သည်များကို တာဝန်ယူဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ စက်ရုံဝင်းအတွင်းအရိပ်ရလေကာပင်များ၊ အမြဲစိမ်းနှစ်ရှည်/နှစ်တိုပင်များစိုက်ပျိုးသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်မှ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းတွင် ကုန်ကြမ်းအဖြစ်အသုံးပြုမည့် ကော့စတစ်ဆိုဒါ(သို့မဟုတ်)ဆိုဒီယမ်ဟိုက်ဒရောဆိုဒ်သည် အလွန်တိုက်စားစေနိုင်သည့်သတ္တိရှိပြီး ၎င်းနှင့်ထိတွေ့ခြင်း၊ ရှူရှိုက်မိခြင်းများဖြစ်ပါက မျက်စေ့နှင့်အရေပြားကို ပြင်းပြင်းထန်ထန်ထိခိုက်ပျက်စီးစေခြင်း၊ ခန္ဓာကိုယ်နှင့်အသားတစ်ရှူးများလောင်ကျွမ်းခြင်းများဖြစ်ပေါ်စေနိုင်ပါသည်။ ဆိုဒီယမ်ဟိုက်ဒရောဆိုဒ်သည် အလူမီနီယံကဲ့သို့သတ္တုများနှင့်တွေ့သည့်အခါ ဓာတ်ပြုလောင်ကျွမ်းပြီးပေါက်ကွဲစေနိုင်သည့် ဟိုက်ဒရိုဂျင်ဓာတ်ငွေ့များထွက်ရှိစေနိုင်ပါသည်။ ထို့အပြင်ဆိုဒီယမ်ဟိုက်ဒရော့ဆိုဒ်သည် လေထဲသို့ရောက်ရှိပါက အခြားဓာတုပစ္စည်းများနှင့်ဓာတ်ပြုပြီးအန္တရာယ်ရှိသည့် ရေခိုးရေငွေ့များဖြစ်ပေါ်နိုင်ပါသည်။ ဆိုဒီယမ်ဟိုက်ဒရော့ဆိုဒ်သည် ရေထဲသို့ရောက်ရှိပါက ရေ၏ PH Level ကိုမြင့်တက်စေပြီး အပင်နှင့်ရေနေသတ္တဝါများ၏ ရှင်သန်မှုနှင့် ၎င်းတို့၏နေထိုင်ကျက်စားရာနေရာများကို ပျက်စီးဆုံးရှုံးစေခြင်းစေသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ တော်ဝင်းဟိန်းကုမ္ပဏီလီမိတက်မှ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ (Corporate Social Responsibility-CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်

ရှက်ရန်။

( ခ ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment – EIA )ကိုဆောင်ရွက်ပြီး အစီရင်ခံစာရေးသားပြုစုတင်ပြရန်။

( ဂ ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်နှင့် လူတို့၏ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP )အား ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

( င ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ

"ရွှေတော်ဝင်မြတ် ကုမ္ပဏီ လီမိတက်"

GOLDEN ROYAL MYAT COMPANY LIMITED

မှ

စက်မှုဝန်ကြီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်းပိုင်၊ ဆပ်ပြာစက်ရုံ (မန္တလေး)အား

ငှားရမ်း၍ ဆပ်ပြာအမျိုးအမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချသော

လုပ်ငန်းအား ဆောင်ရွက်မည့်

" အဆိုပြုလွှာတင်ပြချက် "

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ၊ (၁၈) ရက်

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့်တင်ပြလာသောရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်
(ယခင်တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်)၏ ကော်မရှင်အစည်းအဝေးသို့ တင်ပြရန်ကြာချိန်

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၂၅-၁-၂၀၁၆ | - | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | - မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး | ၁၈-၂-၂၀၁၆ | ၁၇-၃-၂၀၁၆ | |
| | - ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန | ၁၈-၂-၂၀၁၆ | ၇-၃-၂၀၁၆ | |
| | - စက်မှုဝန်ကြီးဌာန | ၁၈-၂-၂၀၁၆ | ၄-၃-၂၀၁၆ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးတင်ပြခြင်း (၇/၂၀၁၆) | ၁၆-၂-၂၀၁၆ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းပြန်ကြားခြင်း | ၁၆-၂-၂၀၁၆ | | |
| ၅ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ကုမ္ပဏီသို့ ပြန်ကြားခြင်း | ၂၄-၂-၂၀၁၆ | | |
| ၆ | ကုမ္ပဏီမှပြင်ဆင်ပြီးအဆိုပြုလွှာပေးပို့ခြင်း | ၂၄-၃-၂၀၁၆ | | |
| | စုစုပေါင်းကြာမြင့်ရက် | (၅၉)ရက် | | |

| | | |
|---|---|---|
| အကြောင်းအရာ။ | **မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရွှေတော်ဝင်မြတ်ကုမ္ပဏီ လီမိတက် (ယခင်တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်)မှ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ အဓိကအချက်အလက်များ** | |

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက် (ယခင်တော်ဝင်ဟိန်းကုမ္ပဏီ လီမိတက်)<br>(Golden Royal Myat Company Limited) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်အေးအေးလွင် (အဘ-ဦးအောင်ငါး) |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း)ပိုင် မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ်၊ (၉x၁၀)လမ်းကြား၊ (၇၇x၇၈)လမ်းကြားရှိ ဆပ်ပြာစက်ရုံ (မန္တလေး) |
| | မြေပိုင်ရှင် | - စက်မှုဝန်ကြီးဌာန၊မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင်မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း) |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၅.၄၅၄၆ ဧက (၂၂၀၇၄ စတုရန်း မီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၁၀၀ပေx၁၀၀ပေx၂၇ပေ<br>(တစ်ထပ်အဆောက်အဦ၁လုံးဆောက်လုပ်မည်ဖြစ်ပါသည်။) |
| | မြေငှားသက်တမ်း | - ၂၀ နှစ် |
| | နှစ်စဉ်မြေနှင့်အဆောက်အဦငှားရမ်းခ | - ကျပ် ၁၂၂.၄ သိန်း |
| | | - ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးအမှတ်စဉ် (၁/၂၀၁၄) ၏ ခွင့်ပြုချက်အရ ၅+၁၅ နှစ် ဖြင့် ငှားရမ်းဆောင်ရွက်လျက်ရှိပါသည်။ |
| | | - ၁-၃-၂၀၁၂မှ စတင် ငှားရမ်းစာချုပ် ချုပ်ဆို၍ ၁-၃-၂၀၃၂ အထိ လက်ကျန်သက်တမ်း ၁၆နှစ်ကျန်ရှိပါသည်။ |
| | လုပ်ငန်းဆောင်ရွက်မှုအာမခံ(PBG) | - တစ်နှစ်ငှားရမ်းခနှုန်းထား၏ ၁၀% |
| ၅။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | - **ကျပ် ၂၉၃၀.၆၇ သိန်း (US$ ၀.၄၀ သိန်း အပါအဝင်)** |
| | -ငွေသား | ကျပ် ၁၀၃၈.၄၇ သိန်း |
| | - မြေနှင့်အဆောက်အဦငှားရမ်းခ | ကျပ် ၆၁၇.၂၀ သိန်း |
| | - အဆောက်အဦအသစ်တန်ဖိုး | ကျပ် ၅၀၀.၀၀ သိန်း |
| | - အဆောက်အဦမွမ်းမံခြင်းတန်ဖိုး | ကျပ် ၂၅၀.၀၀ သိန်း |
| | -စက်နှင့် စက်ပစ္စည်းတန်ဖိုး(ပြည်ပ) | ကျပ် ၅၀၀.၀၀ သိန်း (US$ ၀.၄၀ သိန်း) |
| | -ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ကျပ် ၂၅.၀၀ သိန်း |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - ၂၀ နှစ် |

| | | |
|---|---|---|
| ၇။ | တည်ဆောက်ရေးကာလ | - ၁နှစ် |
| ၈။ | ရောင်းချမည့်နည်းစနစ် | - ပြည်တွင်း ၁၀၀% |
| ၉။ | ထုတ်လုပ်မှုနှင့်ရောင်းချမှု (၆နှစ်မြောက်) | |

| အမျိုးအမည် | ထုတ်လုပ်မှု(Ton) | ရောင်းဈေးနှုန်း(Kyats/Ton) |
|---|---|---|
| ရွှေဝါဆပ်ပြာ(မန်းရွှေဝါ) | ၃,၇၅၀ | ၆၉၆ |
| ကာဘော်လစ်ဆပ်ပြာ | ၁,၀၀၀ | ၇၁၅ |
| ကိုယ်တိုက်ဆပ်ပြာ(မွှေး) | ၁,၁၄၀ | ၁၄၄၀ |

| | | |
|---|---|---|
| ၁၀။ | ဝင်ငွေ(၆ နှစ်မြောက်) | - ကျပ် ၄၉၆၆.၆၀ သန်း |
| | အသုံးစရိတ်(၆ နှစ်မြောက်) | ကျပ် ၄၅၆၃.၉၃ သန်း |
| | အသားတင်အမြတ်(၆ နှစ်မြောက်) | ကျပ် ၄၀၂.၆၇ သန်း |
| ၁၁။ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်) | - ၁၆၆ ဦး |
| | ပြည်တွင်း | ၁၆၃ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၅၀၀,၀၀၀)<br>***ပြည်တွင်းဝန်ထမ်းအင်အားစာရင်းတွင် စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းရယူထားသော ဝန်ထမ်း ၈၅ဦး အပါအဝင် ဖြစ်ပါသည်။** |
| | ပြည်ပ | - ၃ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ လစာမှာ US$၈၀၀ ဖြစ်ပါသည်။) |
| ၁၂။ | အရင်းကြေကာလ | - ၅ နှစ် ၈လ |
| ၁၃။ | အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း(IRR) | - ၁၈.၂၃ % |
| ၁၄။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ် (၆ နှစ်မြောက်) | |
| | -ဝင်ငွေခွန် | - ကျပ် ၁၃၄.၂၂ သန်း |
| | -ကုန်သွယ်လုပ်ငန်းခွန် | - ကျပ် ၂၃၆.၅၀ သန်း<br>(အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် မြန်မာကျပ်ငွေ ၁၂၅၀ နှုန်း ဖြင့်တွက်ချက်ထားပါသည်) |
| ၁၅။ | နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက် | - ၂၄၀၀၀၀ ယူနစ် |
| ၁၆။ | ငွေကြေးအထောက်အထား | - ကျပ်ငွေ အထောက်အထား အဖြစ် United Amara Bank Ltd. (Pazundaung Branch)တွင် ဒေါ်အေးအေးလွင် အမည်ဖြင့် ၂၁-၃-၂၀၁၆ နေ့ တွင် ငွေလက်ကျန် ကျပ် ၇၅၅,၉၂၁,၇၆၁.၇၈ ရှိကြောင်း တင်ပြထားပါသည်။<br>- ကုမ္ပဏီ၏ အမြတ်ငွေထဲမှ CSR အတွက် ၂% သုံးစွဲမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၇။ | စိစစ်တင်ပြချက် | - မြန်မာ့ဆေးဝါးလုပ်ငန်းရှိ ဆပ်ပြာစက်ရုံ (မန္တလေး)အား တော်ဝင်ဟိန်း ကုမ္ပဏီလီမိတက် (Royal Hein Co.,Ltd.) အစား ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်(Golden Royal Myat Co.,Ltd.) အမည်ဖြင့် ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် ထောက်ခံကြောင်းစာအား စက်မှုဝန်ကြီးဌာနမှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံးသို့ပေးပို့ထားပါသည်။<br><br>စက်မှုဝန်ကြီးဌာန၊မြန်မာ့ဆေးဝါးလုပ်ငန်းနှင့် ရွှေတော်ဝင်မြတ် ကုမ္ပဏီ လီမိတက် (ယခင်တော်ဝင်ဟိန်း ကုမ္ပဏီလီမိတက်) တို့ချုပ်ဆိုမည့် ဆပ်ပြာစက်ရုံ (မန္တလေး)အား ငှားရမ်း ဆောင်ရွက်သည့် သဘောတူစာချုပ် (မူကြမ်း)အားပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အတူ တင်ပြထားပါသည်။ |

| | |
|---|---|
| ကုမ္ပဏီအမည် | - ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက် (ယခင်တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်) |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း)ပိုင် မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံ မြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ်၊(၉x၁၀)လမ်းကြား၊(၇၇x၇၈)လမ်းကြား ရှိဆပ်ပြာစက်ရုံ(မန္တလေး)၏ မြေဧရိယာ(၅.၄၅၄၆)ဧက(၂၂၀၇၄စတုရန်း မီတာ) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - ကျပ် ၂၉၃၀.၆၇ သန်း (US$ ၀.၄၀ သန်း အပါအဝင်) |
| ရောင်းချမည့်စနစ် | - ပြည်တွင်း ၁၀၀% |
| လုပ်ငန်းသက်တမ်း | - ၂၀ နှစ် |
| အရင်းကြေကာလ | - ၅ နှစ် ၈လ |
| IRR | - ၁၈.၂၃ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်းလစာ | ၃.၀၀ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၇ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၅.၀၀ | - |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | - | ၁၄၇၁.၉၄ |
| ၅ | ဝင်ငွေခွန် | ၆၇၁.၁၀ | ၁၀၇၃.၇၆ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၁၉၅.၈၄ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ် ထက်ကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း(၄၅)ဦး |
| ၈ | CSR (၂%) | - | ၄၀.၇၇ |
| ၉ | မြေနှင့်အဆောက်အဦ ငှားရမ်းခရငွေ | | ၁၄၆၈.၈၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၁၆၃) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှု ကိုအထောက်အကူပြုစေပါသည်။ |
| | စုစုပေါင်း | ကျပ် ၆၈၉.၁၀ သန်း | ကျပ် ၄၂၅၂.၂၈ သန်း |
| | Cost : Benefit | ၁ :၆ | |

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရက-၃/မ-၁၃၂၄/၂၀၁၆(၄၅၃ )
ရက်စွဲ၊ ၂၀၁၆ ခုနှစ် မတ်လ ၂၂ ရက်

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်
## အမှာစာ

အကြောင်းအရာ။ ။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက် (ယခင်တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်)မှ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

၁။ ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက် (ယခင် တော်ဝင်ဟိန်း ကုမ္ပဏီလီမိတက်)သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း(ယခင် မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း)ပိုင် မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ်၊ (၉x၁၀) လမ်းကြား၊ (၇၇x၇၈) လမ်းကြားရှိ ဆပ်ပြာစက်ရုံ (မန္တလေး)၏ မြေဧရိယာ ၅.၄၅၄၆ ဧက(၂၂၀၇၄စတုရန်းမီတာ)နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများ၊ စက် ပစ္စည်းများအားငှားရမ်း၍ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်အေးအေးလွင် (အဘ-ဦးအောင်ငါး)မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်ခွင့်အတွက် ပြည်ထောင်စုအစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဉ် ၁/၂၀၁၄ (၉-၁-၂၀၁၄) အရ ၅+၁၅ နှစ် ခွင့်ပြုထားပါသည်။ ငှားရမ်းသက်တမ်းမှာ ၁-၃-၂၀၁၂ မှ ၂၈-၂-၂၀၃၂ နေ့အထိဖြစ်ပြီး လက်ကျန်သက်တမ်းမှာ ၁၆ နှစ်ခန့်ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၁နှစ် ဖြစ်ပါသည်။ နှစ်စဉ်မြေနှင့် အဆောက်အဦ ငှားရမ်းခမှာ မြေဧရိယာ ၅.၄၅၄၆ ဧက(၂၂၀၇၄စတုရန်းမီတာ)အတွက် ကျပ် ၁၂၂.၄၀၀ သန်း ဖြစ်ပါသည်။ အဆိုပြုချက် နှင့်အတူ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ မူလ ရင်းနှီးမြှုပ်နှံမှု တန်ဖိုး ကျပ်၉၃၀.၆၇သန်း အပြင် ထပ်မံ၍ ကျပ်၂၀၀၀.၀၀ သန်း ရင်းနှီးမြှုပ်နှံသဖြင့် အမေရိကန် ဒေါ်လာ ၀.၄၀ သန်း အပါအဝင် စုစုပေါင်း ကျပ်၂၉၃၀.၆၇သန်း ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | မူလရင်းနှီးမြှုပ်နှံမှု (ကျပ်/သန်း) | ထပ်မံတိုးမြှင့်သည့် ရင်းနှီးမြှုပ်နှံမှု (ကျပ်/သန်း) | စုစုပေါင်း ရင်းနှီးမြှုပ်နှံမှု (ကျပ်/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၄၃၅.၈၇ | ၆၀၂.၆၀ | ၁၀၃၈.၄၇ |
| (ခ) | မြေနှင့်အဆောက်အဦငှားရမ်းခ | ၄၉၄.၈၀ | ၁၂၂.၄၀ | ၆၁၇.၂၀ |
| (ဂ) | အဆောက်အဦအသစ်တန်ဖိုး | | ၅၀၀.၀၀ | ၅၀၀.၀၀ |
| (ဃ) | အဆောက်အဦမွမ်းမံခြင်းတန်ဖိုး | | ၂၅၀.၀၀ | ၂၅၀.၀၀ |
| (င) | စက်နှင့် စက်ပစ္စည်းတန်ဖိုး (ပြည်ပ) | | | ၅၀၀.၀၀ (US$ ၀.၄၀ သန်း) |
| (စ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | | ၂၅.၀၀ | ၂၅.၀၀ |
| | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ၉၃၀.၆၇ | ၂၀၀၀.၀၀ | ၂၉၃၀.၆၇ (US$ ၀.၄၀ သန်းအပါအဝင်) |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၁၆၃ ဦး နှင့်ပြည်ပမှ ဝန်ထမ်း ၃ ဦး စုစုပေါင်း ၁၆၆ ဦးခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်း တစ်ဦး၏ လစာမှာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပမှ ဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၈၀၀ ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းအင်အားစာရင်းတွင် စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းရယူထားသော ဝန်ထမ်း ၈၅ဦး အပါအဝင် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ဆပ်ပြာအမျိုးမျိုးကို ပြည်တွင်း ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်(၆-နှစ်မြောက်)တွင် ထုတ်လုပ်နိုင်မှုနှင့် ရောင်းချမည့် ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| **အမျိုးအမည်** | **ထုတ်လုပ်မှု(Ton)** | **ရောင်းဈေးနှုန်း(Kyats/Ton)** |
|---|---|---|
| ရွှေဝါဆပ်ပြာ(မန်းရွှေဝါ) | ၃,၇၅၀ | ၆၉၆ |
| ကာဘော်လစ်ဆပ်ပြာ | ၁,၀၀၀ | ၇၁၅ |
| ကိုယ်တိုက်ဆပ်ပြာ(မွှေး) | ၁,၁၄၀ | ၁၄၄၀ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | **ကျပ်(သန်း)** |
|---|---|---|
| (က) | ဝင်ငွေ | ၄၉၆၆.၆၀ |
| (ခ) | အသုံးစရိတ် | ၄၅၆၃.၉၃ |
| (ဂ) | အသားတင်အမြတ် | ၄၀၂.၆၇ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁၃၄.၂၂ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန်မှာ ကျပ် ၂၃၆.၅၀ သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် ၈လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၁၈.၂၃ % ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာလျှင် ၁၂၅၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၈။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာနနှင့် စက်မှုဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိ မြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိခြင်း၊ မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေသဖြင့် (၁၁-၃-၂၀၁၆)ရက်နေ့ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၈/၂၀၁၆) ဆုံးဖြတ်ချက် အပိုဒ်(၅၀၃)အရ ကန့်ကွက်ရန် မရှိကြောင်းနှင့် ဆောင်ရွက်သင့်သည့် လုပ်ငန်းတစ်ခု ဖြစ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။

(နောက်ဆက်တွဲ-က)

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါ သည်-

(၁) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်း ကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြု လွှာတွင်ဖော်ပြထားသည့် လူမှုရေး အကျိုးပြု လုပ်ငန်းများ (Corporate Social Responsibility-CSR)အတွက် အသားတင်အမြတ်ငွေ၏ (၂%)အား အသုံးပြု ခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင် ရွက်ရန်။

(၂) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး **ထိခိုက်မှု** မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက် မှုဆန်းစစ်ခြင်း(Environmental Impact Assessment -EIA)ကို ဆောင်ရွက် ပြီး အစီရင်ခံစာ ရေးသားပြုစုတင်ပြရန်။

(၃) လုပ်ငန်းများ ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေရန် နှင့် လူတို့၏ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့် လုပ်ငန်း **အစီအစဉ်**၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်နှင့် စောင့်ကြည့် လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက် မည့် လုပ်ငန်းများအတွက်သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(၄) ပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင် ရွက်ရန်။ **ကုမ္ပဏီမှ** EIA,EMP **အစီရင်ခံစာ ရေးဆွဲတင်ပြမည်ဖြစ်ကြောင်းဝန်ခံ ကတိပြုထားပါသည်။** **(နောက်ဆက်တွဲ - ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန**၏ လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေ နှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ကြောင်းနှင့် ကုန်ကြမ်းလိုအပ်ချက် နှင့် ကုန်ချောထုတ်လုပ်မှု အချိုးအစားညီညွတ်မှုရှိကြောင်း သဘောထားပြန်ကြားထား ပါသည်။ (နောက်ဆက်တွဲ - ဂ)

၉။ ကျပ်ငွေ အထောက်အထား အဖြစ် United Amara Bank Ltd. (Pazundaung Branch)တွင် ဒေါ်အေးအေးလွင် အမည်ဖြင့် ၂၁-၃-၂၀၁၆ နေ့ တွင် ငွေလက်ကျန် ကျပ် ၇၄၅,၉၂၁,၇၆၁.၇၈ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သောအစီအမံများ၊ မီးဘေးကြိုတင် ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ဝန်ထမ်း၏ လစာနှင့် ပတ်သက်၍ နိုင်ငံတော်မှ ချမှတ်ထားသော လစာဝင်ငွေခွန် ဥပဒေအတိုင်း ဝင်ငွေခွန် ပေးသွင်းမည်ဖြစ်ကြောင်း ဝန်ခံကတိပြုထားပါသည်။

၁၁။ ဝန်ထမ်းသက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေးအတွက် ဝန်ထမ်းများအား လူမှုဖူလုံရေးဥပဒေအရ ခံစားခွင့်များ အပြည့်အဝခံစားနိုင်ရန်အတွက် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊ ကျန်းမာရေးနှင့် ကိုက်ညီသည့် အာဟာရပြည့် အစားအစာများ လုပ်ငန်းချိန်အလိုက် ကျွေးမွေးမည် ဖြစ်ကြောင်း၊ ဝန်ထမ်းများ၏ ကျန်းမာရေး၊ သာရေး၊ နာရေးနှင့် ဝန်ထမ်းများ၏ သားသမီးများ ပညာရေးကိုလည်း ထိရောက်စွာ ထောက်ပံ့ပေးမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ်ပြီး မဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အား မရရှိသည့်အချိန်တွင် Generator 100KV ဖြင့် လျှပ်စစ်မီးအစားထိုးသုံးစွဲမည်ဖြစ်ကြောင်း ကုမ္ပဏီမှ တင်ပြထားပါသည်။

၁၃။ ကုမ္ပဏီမှ နှစ်စဉ်အသားတင်အမြတ်၏(၂)%ကို လူမှုအကျိုးပြုလုပ်ငန်း (Corporate Social Responsibility -CSR)အတွက် အသုံးပြုမည်ဖြစ်ပါကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဖေဖော်ဝါရီလ ၁၆ ရက်နေ့တွင် ကျင်းပသော (၇/၂၀၁၆) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၅။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**စိစစ်တင်ပြချက်**

၁၆။ (က) မြန်မာ့ဆေးဝါးလုပ်ငန်းရှိ ဆပ်ပြာစက်ရုံ(မန္တလေး)အား တော်ဝင်ဟိန်း ကုမ္ပဏီ လီမိတက် (Royal Hein Co.,Ltd.) အစား ရွှေတော်ဝင်မြတ် ကုမ္ပဏီ လီမိတက် (Golden Royal Myat Co.,Ltd.)အမည်ဖြင့် ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် ထောက်ခံကြောင်းစာအားစက်မှုဝန်ကြီးဌာနမှမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံးသို့ပေးပို့ထားပါသည်။

(ခ) ယခင်တင်ပြခဲ့သော တော်ဝင်ဟိန်း ကုမ္ပဏီ လီမိတက် သည် ၂-၁-၂၀၀၈ ရက်စွဲဖြင့် ကုမ္ပဏီမှတ်ပုံတင်လက်မှတ်အမှတ် ၁၃၃၈/၂၀၀၇-၂၀၀၈ဖြင့် မှတ်ပုံတင် လက်မှတ်

ရရှိထားပါသည်။ တော်ဝင်ဟိန်း ကုမ္ပဏီလီမိတက် အစား ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်အမည်ဖြင့် ပြောင်းလဲဆောင်ရွက်ခြင်းအား စက်မှုဝန်ကြီးဌာနမှ တဆင့်တင်ပြလာခြင်းဖြစ်ပါသည်။ ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်သည် ၂၅-၁-၂၀၁၆ ရက်စွဲတွင် ကုမ္ပဏီမှတ်ပုံတင် လက်မှတ်အမှတ် ၃၃၀၅/၂၀၁၅-၂၀၁၆ (ရက)ဖြင့် မှတ်ပုံတင်ထားကြောင်းစိစစ်တွေ့ရှိရပါသည်။

(ဂ) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း)ပိုင် ဆပ်ပြာစက်ရုံ (မန္တလေး) ကို နေ့တွင် ကျင်းပပြုလုပ်သော **ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၃၃/၂၀၁၂(၁၀-၈-၂၀၁၂)** သဘောတူခွင့်ပြုချက်အရ ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်သို့ **၁-၃-၂၀၁၂ မှ၂၈-၂-၂၀၁၇ အထိ ၅ နှစ်** ငှားရမ်းဆောင်ရွက်ခဲ့ပြီး **ပြည်ထောင်စု အစိုးရအဖွဲ့အစည်းအဝေး အမှတ်စဉ် ၁/၂၀၁၄ (၉-၁-၂၀၁၄)** သဘောတူ ခွင့်ပြုချက် အရ ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်သို့ မူလငှားရမ်းသက်တမ်း ၅ နှစ်မှ ထပ်မံ သက်တမ်းတိုးခြင်းကို **၁-၃-၂၀၁၇မှ ၂၈-၂-၂၀၃၂ အထိ ၁၅နှစ်** ခွင့်ပြုထားပါသည်။စုစုပေါင်း ၁-၃-၂၀၁၂ မှ ၂၈-၂-၂၀၃၂ အထိ ၂၀နှစ် ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန် လုပ်ငန်း)ပိုင် ဆပ်ပြာစက်ရုံ(မန္တလေး)အား ငှားရမ်းသည့် သဘောတူစာချုပ်ကို စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန် လုပ်ငန်း)နှင့် ရွှေတော်ဝင်မြတ် ကုမ္ပဏီ လီမိတက်တို့မှ ၂၈-၂-၂၀၁၂ ရက်နေ့တွင် ချုပ်ဆိုခဲ့ပြီး အဆောက်အဦ ၂၅လုံးပါရှိပါသည်။ ငှားရမ်းခအနေဖြင့် **တစ်နှစ်လျှင် ကျပ် ၁၂၀ သန်း** ဖြစ်ပါသည်။

(င) ငှားရမ်းဆောင်ရွက်သည့် သဘောတူစာချုပ်အပေါ် သက်တမ်းတိုးမြှင့်သည့် တတိယအကြိမ် ပြင်ဆင်သည့် သဘောတူစာချုပ်(မူကြမ်း)အား ၅၀+၁၀+၁၀ သက်တမ်းတိုး ငှားရမ်းလိုခြင်းကြောင့် ထပ်မံချုပ်ဆိုရခြင်း ဖြစ်ပါသည်။ ၎င်း တတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ် (မူကြမ်း)အား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင် တင်ပြထားပါသည်။

(စ) ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်သည် တစ်နှစ်ငှားရမ်းခ ၏ ၁၀%နှင့် ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှု အာမခံ (Performance Bank Guarantee) အဖြစ် မြန်မာ့စီးပွားရေးဘဏ် (နေပြည်တော်)တွင် အပ်နှံထားရှိ၍ ထားရှိမှုမှတ်တမ်းကိုဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်းတွင်သိမ်းဆည်းထားရှိရမည်ဖြစ်ကြောင်း ဖော်ပြထားပါသည်။

(ဆ) တော်ဝင်ဟိန်း ကုမ္ပဏီလီမိတက် (Royal Hein Co.,Ltd.)၏ ၂၀၁၀-၂၀၁၁၊ ၂၀၁၂-၂၀၁၃၊ ၂၀၁၃-၂၀၁၄၊ ၂၀၁၄-၂၀၁၅ စည်းကြပ်နှစ်များအတွက်ဝင်ငွေခွန် ထမ်းဆောင်ထားသည့် အထောက်အထားများတင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက် (ယခင် တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်)သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း) ပိုင် မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ်၊ (၉x၁၀) လမ်းကြား၊ (၇၇x၇၈)လမ်းကြားရှိ ဆပ်ပြာစက်ရုံ (မန္တလေး)၏ မြေဧရိယာ(၅.၄၅၄၆)ဧက (၂၂၀၇၄ စတုရန်းမီတာ)အား ငှားရမ်း၍ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ် ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့
မန္တလေးမြို့

စာအမှတ်၊ ၂ / ၃ - ၆ / ၃၂ ဦး ၆ ( ၀၇၆ )
ရက် စွဲ ၊ ၂၀၁၆ ခုနှစ် ၊ မတ်လ ၁၇ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ ။ **တိုင်းဒေသကြီးအစိုးရအဖွဲ့ သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈.၂.၂၀၁၆) ရက်စွဲပါစာအမှတ်၊ ရက - ၃ / မ - ၁၃၂၄ / ၂၀၁၆( ၂၇၂)

၁။ အောင်မြေသာစံမြို့နယ်၊ အမရဍ္ဍာနီအရှေ့ရပ်ကွက်၊ (၉×၁၀)လမ်းကြား၊ (၇၇×၇၈)လမ်းကြားရှိ စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း(ယခင်မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း)ပိုင် ဆပ်ပြာစက်ရုံ(မန္တလေး)၏ မြေဧရိယာ (၅.၄၅၄၆) ဧက( ၂၂၀၇၄ စတုရန်းမီတာ)အား ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက် က ငှားရမ်း၍ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်မည့်အပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားစိစစ်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် သို့ရှိုင်းလာပါသည်။

၂။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့် မြေနေရာနှင့်ပတ်သက်၍ ကွင်းဆင်းစစ်ဆေး ဆောင်ရွက်ခဲ့ရာ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည် -

(က) **နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းရှိ/မရှိ** နှင့်ပတ်သက်၍ လွန်ခဲ့သော နှစ်ပေါင်းများစွာကပင် စက်မှုဝန်ကြီးဌာနက ဆပ်ပြာစက်ရုံအဖြစ် ဆောင်ရွက်အသုံးပြုခဲ့သည့်အတွက် နောင်ပြုလုပ်မည့်/လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိကြောင်း၊

(ခ) **မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/ မဖြစ်** နှင့်ပတ်သက်၍ စက်မှုဝန်ကြီးဌာနမှ နိုင်ငံ့ဝန်ထမ်း (၈၅)ဦးရှိသည့်အပြင် နေ့စား၊ လစားဝန်ထမ်းများ ခန့်ထား ဆောင်ရွက်မည်ဖြစ်သဖြင့် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိလာကာ ဒေသတွင်း စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူ ဖြစ်စေနိုင်သည့် သွင်းကုန်အစားထိုးလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ခြင်းကြောင့် နိုင်ငံခြားငွေသုံးစွဲမှုကို လျှော့နည်းကျဆင်းစေခြင်း၊ အရည်အသွေး ကောင်းမွန်သော ဆပ်ပြာအမျိုးမျိုးကို ဈေးနှုန်းသက်သာစွာ ဝယ်ယူရရှိနိုင်မည် ဖြစ်ခြင်းတို့ကြောင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအထောက် အကူဖြစ်နိုင်ပါကြောင်း ၊

(ဂ) **အဆိုပြု မြေနေရာကို စက်ရုံအတွက်သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိ/မရှိ** နှင့်ပတ်သက်၍ ဆပ်ပြာထုတ်လုပ်ခြင်းမှ ထွက်ရှိသော ရေများအား (meutralization)ပြုလုပ်၍ ရေနှင့် ရောစပ်ပြီး စစ်ကန် (Setting Tank) အဆင့်ဆင့်သို့ အနည်ချပြီးမှ(Drain)တွင် စွန့်ပစ်မှုကိုပြုလုပ်ခြင်း၊ လုပ်ငန်းစဉ်အားလုံး တွင် အသံဆူညံပြီး ပတ်ဝန်းကျင်ထိခိုက်သော အသံနှင့်အခိုးအငွေ့ ဖြစ်ပေါ်ခြင်းတို့ မရှိ စေရန် စနစ်တကျဆောင်ရွက်ထားရှိခြင်း၊ဆပ်ပြာတွင်အသုံးပြုသော ဆီများမှာ သတ်မှတ်စံချိန်စံညွှန်းနှင့်အညီ စစ်ဆေးလက်ခံသုံးစွဲသည့်အတွက် အနံ့ဆိုးများ ထွက်ပေါ်မှုမရှိခြင်းတို့အပြင် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အကျိုးပြုလုပ်ငန်းများကို ဒေသခံများနှင့်ပူးပေါင်းဆောင်ရွက်ခြင်းတို့ကြောင့် ဒေသခံများနှင့် စိတ်ချမ်းမြေ့စွာ ပူးပေါင်းဆောင်ရွက်နေသည်ကို တွေ့ရှိရ၍ လက်ခံနိုင်ခြင်းရှိပါကြောင်း ၊

(ဃ) **လုပ်ငန်းဆောင်ရွက်နိုင်မည့် မြေနေရာ ဟုတ်/ မဟုတ်** နှင့်ပတ်သက်၍ အဆိုပြု မြေနေရာသည် စက်မှုဝန်ကြီးဌာနမှ လွှန်ခဲ့သော နှစ်ပေါင်းများစွာကပင် ရင်းနှီးမြှုပ်နှံမှုများ ပြုလုပ်၍ စက်ရုံတည်ဆောက်ပြီး ဆောင်ရွက်ခဲ့သော လုပ်ငန်းတစ်ခု ဖြစ်ပါသဖြင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း ဆောင်ရွက်နိုင်သည့် မြေနေရာ ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(င) တိုင်းဒေသကြီးအစိုးရအဖွဲ့မှ **သီးခြားအကြံပြုရန်မရှိပါ ။**

၂။ သို့ဖြစ်ပါ၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်မှ ဆောင်ရွက်မည့် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းနှင့်ပတ်သက်ပြီး (၁၁.၃.၂၀၁၆) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၈/၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ် (၅၀၃)အရ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ရဲမြင့်
ဝန်ကြီးချုပ်

**မိတ္တူကို**

လှည့်လည်စာတွဲ ၊

ရုံးလက်ခံ ။

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

၇-၅၉၃
78/3

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၅-၂၀၁၆ (၄၃၈၃)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ ၄ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈.၂.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၃/မ-၁၃၂၄/၂၀၁၆(၂၇၁)

၁။ ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း (ယခင် မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း)ပိုင် မန္တလေးတိုင်း ဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဋ္ဌာနီ၊ ရှမ်းဝိုင်းရပ်၊ (၉×၁၀)လမ်းကြား၊ (၇၇×၇၈)လမ်းကြားရှိ ဆပ်ပြာစက်ရုံ(မန္တလေး)တွင် ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုနှင့် ဘွိုင်လာအသုံးပြုမှုများကို လျှပ်စစ်ဥပဒေ၊ ဘွိုင်လာဥပဒေတို့နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) ကုမ္ပဏီအနေဖြင့် ပြည်ပမှ Soap Finishing Line ထပ်မံတင်သွင်းမည်ဟု တင်ပြထားရာ ထုတ်လုပ်မှုအတွက် သင့်လျော်မှု ရှိပါသည်။

(စ) ကုန်ကြမ်းသုံးစွဲမှုနှင့် ကုန်ချောထွက်ရှိမှု တင်ပြထားချက် ကိုက်ညီမှုရှိပါသည်။

၃။ သို့ပါ၍ ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်မှ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၄. ၃. ၂၀၁၆

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(တင်ဝင်း၊ လက်ထောက်အတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

စက်မှုဝန်ကြီးဌာန

M. 379
26/2

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၃-စမ(၂)၂၀၁၅-၂၀၁၆(၃၆၅၄-က)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၅ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **ဆပ်ပြာစက်ရုံ(မန္တလေး)၏ ငှားရမ်းကုမ္ပဏီအမည်ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စ**

ရည် ညွှန်း ချက်။ စက်မှုဝန်ကြီးဌာန၏ ၁၈.၁.၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၂၃-စမ(၂)၂၀၁၅-၂၀၁၆ (၃၆၅၄)

၁။ စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းရှိ ဆပ်ပြာစက်ရုံ(မန္တလေး)ကို တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်သို့ မူလငှားရမ်းကာလ(၅+ ၁၅)နှစ်အစား (၅၀+ ၁၀+ ၁၀)နှစ်ဖြင့် နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုပါရန် ရည်ညွှန်းချက်ပါစာဖြင့် တင်ပြခဲ့ပါသည်။

၂။ တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်အနေဖြင့် ကုမ္ပဏီအမည်အား တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်(Royal Hein Co., Ltd.)အစား ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်(Golden Royal Myat Co., Ltd.)အမည်ဖြင့် ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာပါသည်။

၃။ အဆိုပါ ကုမ္ပဏီအနေဖြင့် အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာနမှလည်း ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက် (Golden Royal Myat Co., Ltd.) အမည်ဖြင့် ကုမ္ပဏီမှတ်ပုံတင်လက်မှတ်ရရှိထားပြီးဖြစ်ပါသည်။ ၎င်းစာမိတ္တူကို ပူးတွဲဖော်ပြအပ်ပါသည်။

၄။ သို့ပါ၍ မြန်မာ့ဆေးဝါးလုပ်ငန်းရှိ ဆပ်ပြာစက်ရုံ(မန္တလေး)အား တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်(Royal Hein Co., Ltd.)အစား ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်(Golden Royal Myat Co., Ltd.)အမည်ဖြင့် ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် ထောက်ခံပေးပို့အပ်ပါသည်။

၂၅.၂.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
မြန်မာ့ဆေးဝါးလုပ်ငန်း

M-497
7/3/16



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/MIC(OSS)/ECD/၀၁(၃၁/၁၆)
ရက် စွဲ ၊ ၂၀၁၆ခုနှစ် မတ် လ ၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်မှ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးခြင်း လုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈-၂-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ရက-၃/ မ-၁၃၂၄/ ၂၀၁၆(၂၇၀)

၁။ တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်း(ယခင် မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း)ပိုင်၊ မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံ မြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ်၊ (၉×၁၀)လမ်းကြားနှင့်(၇၇×၇၈)လမ်းကြားရှိ ဆပ်ပြာစက်ရုံ (မန္တလေး)၏ မြေဧရိယာ ၅.၄၅၄၆ဧက(၂၂၀၇၄စတုရန်းမီတာ)အားငှားရမ်း၍ ဆပ်ပြာအမျိုး မျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီးသဘောထားမှတ်ချက် မှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅၀)ဖြစ်ပြီး သက်တမ်းတိုး(၁၀)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ ထုတ်လုပ်မှုပမာဏမှာပထမနှစ်တွင် ရွှေဝါဆပ်ပြာ ကာဘော်လစ်ဆပ်ပြာ၊ မွှေးကိုယ်တိုက်ဆပ်ပြာ ၄၇၁၂တန်မှ(၁၀)နှစ်အတွင်း ၅၈၉၀တန်အထိ တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကာ ကွယ်မှုအစီအစဉ်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာသော အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးအကျိုးပြုလုပ်ငန်းများ( Corporate Social Responsibility-CSR )လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါ သည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ စက်ရုံမှထွက်ရှိသည့် စွန့်ပစ်ပစ္စည်း

နှင့်အမှိုက်များ၊ ညစ်ညမ်းရေများအား မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ၏ ညွှန်ကြားချက်များနှင့်အညီစနစ်တကျစွန့်ပစ်သွားမည်ဖြစ်ကြောင်း၊ ပတ်ဝန်းကျင်ထိခိုက်စေမည့် လေထုညစ်ညမ်းမှုနှင့်မြေဆီလွှာထိခိုက်များမဖြစ်စေရန် လိုအပ်သည်များကို တာဝန်ယူဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ စက်ရုံဝင်းအတွင်းအရိပ်ရလေကာပင်များ၊ အမြဲစိမ်းနှစ်ရှည်/နှစ်တိုပင်များစိုက်ပျိုးသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်မှ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းတွင် ကုန်ကြမ်းအဖြစ်အသုံးပြုမည့် ကော့စတစ်ဆိုဒါ(သို့မဟုတ်)ဆိုဒီယမ်ဟိုက်ဒရောဆိုဒ်သည် အလွန်တိုက်စားစေနိုင်သည့်သတ္တိရှိပြီး ၎င်းနှင့်ထိတွေ့ခြင်း၊ ရှူရှိုက်မိခြင်းများဖြစ်ပါက မျက်စေ့နှင့်အရေပြားကို ပြင်းပြင်းထန်ထန်ထိခိုက်ပျက်စီးစေခြင်း၊ ခန္ဓာကိုယ်နှင့်အသားတစ်ရှူးများလောင်ကျွမ်းခြင်းများဖြစ်ပေါ်စေနိုင်ပါသည်။ ဆိုဒီယမ်ဟိုက်ဒရောဆိုဒ်သည် အလူမီနီယံကဲ့သို့သတ္တုများနှင့်တွေ့သည့်အခါ ဓာတ်ပြုလောင်ကျွမ်းပြီးပေါက်ကွဲစေနိုင်သည့် ဟိုက်ဒရိုဂျင်ဓာတ်ငွေ့များထွက်ရှိစေနိုင်ပါသည်။ ထို့အပြင်ဆိုဒီယမ်ဟိုက်ဒရောဆိုဒ်သည် လေထဲသို့ရောက်ရှိပါက အခြားဓာတုပစ္စည်းများနှင့်ဓာတ်ပြုပြီးအန္တရာယ်ရှိသည့် ရေခိုးရေငွေ့များဖြစ်ပေါ်နိုင်ပါသည်။ ဆိုဒီယမ်ဟိုက်ဒရောဆိုဒ်သည် ရေထဲသို့ရောက်ရှိပါက ရေ၏ PH Level ကိုမြင့်တက်စေပြီး အပင်နှင့်ရေနေသတ္တဝါများ၏ ရှင်သန်မှုနှင့် ၎င်းတို့၏နေထိုင်ကျက်စားရာနေရာများကို ပျက်စီးဆုံးရှုံးစေခြင်းစေသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်မှ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်းသဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ (Corporate Social Responsibility-CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)အား အသုံးပြုခြင်းတို့အပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်

ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment – EIA )ကိုဆောင်ရွက်ပြီး အစီရင်ခံစာရေးသားပြုစုတင်ပြရန်။

(ဂ) လုပ်ငန်းများဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေရန်နှင့် လူတို့၏ကျန်းမာရေးကို မထိခိုက်စေရန်အတွက် ဆောင်ရွက်မည့်လုပ်ငန်းအစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်နှင့် စောင့်ကြည့်လေ့လာမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP )အား ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့်ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

# "ရွှေတော်ဝင်မြတ် ကုမ္ပဏီ လီမိတက်"

## ဆပ်ပြာစက်ရုံ(မန္တလေး)

## မှ

## ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ဖြန့်ဖြူးရောင်းချသောလုပ်ငန်းအား ခွင့်ပြုပါရန် အဆိုပြုတင်ပြခြင်း

**အညွှန်း**

| | | |
|---|---|---|
| ၁။ | ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်မည့်လုပ်ငန်းအား ခွင့်ပြုပေးပါရန် အဆိုပြုတင်ပြစာ | |
| ၂။ | မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားစာ | |
| ၃။ | ကတိဝန်ခံချက် | |
| ၄။ | ဝန်ထမ်းသက်သာ ချောင်ချိရေး အစီအစဉ် | |
| ၅။ | မီးဘေးကာကွယ်မှု အစီအစဉ် | |
| ၆။ | (က)သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်<br>(ခ)သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်၏သဘောထားမှတ်ချက်နှင့်အညီပြင်ဆင်တင်ပြခြင်း။ | |
| ၇။ | (CSR) လျာထားသုံးစွဲမှုအစီအစဉ် | |
| ၈။ | မနသ ပုံစံ (၁)<br>(က) ဆပ်ပြာစက်ရုံ(မန္တလေး)အား နှစ်ရှည်ငှားရမ်းဆောင်ရွက်မည့်အဆိုပြုချက်အပေါ် ရှင်းလင်းတင်ပြခြင်း။<br>(ခ) ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းအား ခွင့်ပြုပေးပါရန် အဆိုပြုတင်ပြခြင်း။ | |
| ၉။ | အစုရှယ်ယာရှင်များနှင့် ဒါရိုက်တာများစာရင်း | နောက်ဆက်တွဲ (၁) |
| ၁၀။ | ဆောင်ရွက်မည့်လုပ်ငန်းများအတွက် ရင်းနှီးမြှုပ်နှံမှုစာရင်းများ အစီအစဉ် | နောက်ဆက်တွဲ (၂) မှ<br>နောက်ဆက်တွဲ (၁၂) ထိ |
| ၁၁။ | နှစ်အလိုက်ရေလိုအပ်ချက် | |
| ၁၂။ | နှစ်အလိုက်လျှပ်စစ်မီးလိုအပ်ချက် နှင့် လျှပ်စစ်ဓါတ်အားသုံးစွဲမှုစီမံချက်အားတင်ပြခြင်း။ | |
| ၁၃။ | ဝန်ထမ်းများ လစာအပေါ် ဝင်ငွေခွန် ပေးသွင်းမည့် ဆောင်ရွက်ထားရှိမှု အစီအစဉ်။ | |
| ၁၄။ | ဆောက်လုပ်မည့် အဆောက်အဦများ၏တည်နေရာပြ (Layout Plan)နှင့် Process Flow Diagram | |
| ၁၅။ | ကုန်ချောပုံများ | |
| ၁၆။ | နိုင်ငံခြားမှတင်သွင်းမည့် စက်ပစ္စည်းများစာရင်း | |
| ၁၇။ | စက်မှုဝန်ကြီးဌာန မြန်မာ့ဆေးဝါးလုပ်ငန်းမှ ဆပ်ပြာစက်ရုံ (မန္တလေး)အား ငှားရမ်းခြင်း သဘောတူစာချုပ် | |
| ၁၈။ | ဘဏ္ဍာရေးအချက်အလက်များနှင့် အထောက်အထား စာရွက်စာတမ်းများ | |
| ၁၉။ | ကုမ္ပဏီဆိုင်ရာ အထောက်အထား စာရွက်စာတမ်းများ | |

# ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်

# GOLDEN ROYAL MYAT CO.,LTD

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ၊ (၁၈)ရက်။

အကြောင်းအရာ ။ ။ <u>မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များ ပေးပို့ခြင်း။</u>

၁။ အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များ မြန်မာနိုင်ငံသား၊ တိုင်းရင်းသား လုပ်ငန်းရှင်များမှ ပိုင်ဆိုင်သော "ရွှေတော်ဝင်မြတ်" ကုမ္ပဏီလီမိတက် (GOLDEN ROYAL MYAT COMPANY LIMITED) သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ ဆေးဝါးလုပ်ငန်းပိုင် မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ် (၉×၁၀)လမ်းကြား၊ (၇၇×၇၈)လမ်းကြားရှိ ဆပ်ပြာစက်ရုံ(မန္တလေး)၊ မြေ(၅.၄၅၄၆)ဧက နှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများကို ငှားရမ်းပြီး အရည်အသွေးကောင်းမွန်သော ဆပ်ပြာအမျိုးမျိုး ကို ပြည်တွင်းတွင် ထုတ်လုပ်၊ ရောင်းချသောလုပ်ငန်းအား နိုင်ငံတကာအဆင့်မှီ သေသပ်၊ လှပစွာဖြင့် ဆောင်ရွက်သွားရန် ရင်းနှီး၊ မြှုပ်နှံလုပ်ကိုင်လိုပါသည်။

၂။ သို့ဖြစ်ပါ၍ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ဖြန့်ဖြူးရောင်းချသော လုပ်ငန်းအားရင်းနှီးမြှုပ်နှံလုပ်ကိုင်မည့် အဆိုပြုချက်ကို ခွင့်ပြုနိုင်ပါရန် တင်ပြပေးပို့ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

DAW AYE AYE LWIN
MANAGING DIRECTOR
GOLDEN ROYAL MYAT CO.,LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

စာအမှတ် ၊ တော်ဝင် / ၁၃၄ / ၂၀၁၅-၂၀၁၆
ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ၊ (၁၈)ရက်။

အကြောင်းအရာ ။ ။ ပြည်ထောင်စုမြန်မာနိုင်ငံတော် ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀ အရ အခွန်ဆိုင်ရာကင်းလွတ်ခွင့် နှင့် သက်သာခွင့်များ လျှောက်ထားခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေအရ ဖွဲ့စည်းတည်ထောင်ထားသည့် ကျွန်တော်များ "ရွှေတော်ဝင်မြတ်"ကုမ္ပဏီလီမိတက် (GOLDEN ROYAL MYAT COMPANY LIMITED) သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ် (၉×၁၀)လမ်းကြား၊ (၇၇×၇၈)လမ်းကြားရှိ စက်မှုဝန်ကြီးဌာန မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် ဆပ်ပြာစက်ရုံ (မန္တလေး)၏ မြေ (၅. ၅၄၆)ဧကနှင့် ယင်းမြေပေါ်ရှိ စက်ရုံအဆောက်အဦကို ကနဦးနှစ်(၅၀) နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် နှစ်ရှည်ငှားရမ်းပြီး နိုင်ငံတကာအဆင့်မီ ဆပ်ပြာအမျိုးမျိုးကို ပြည်တွင်းတွင် ထုတ်လုပ်ရောင်းချမည် ဖြစ်ပါသည်။

၂။ စက်ရုံအတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ် (၂၀၀၀. ၀၀)သန်း ရင်းနှီးမြှုပ်နှံမည် ဖြစ်ပါသည်။ စက်ရုံသည် ပြည်တွင်းလုပ်သားအင်အား များများအသုံးပြုရသော လုပ်ငန်းတစ်မျိုး ဖြစ်ပါသည်။ ထို့ကြောင့် စက်ရုံသည် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြစ်ပြီး အလုပ်အကိုင်အခွင့်အလမ်းများစွာ ရရှိသောလုပ်ငန်းဖြစ်ပါသည်။

၃။ စက်ရုံအတွက် စုစုပေါင်းရင်းနှီးမြှုပ်နှံမှု ကျပ်(၂၀၀၀. ၀၀)သန်းတွင် ငွေသားကျပ်(၆၀၂. ၆၀)သန်း၊ အဆောက်အဦဆောက်လုပ်ခြင်းအတွက် ကျပ်(၅၀၀. ၀၀)သန်း၊ အဆောက်အဦပြင်ဆင်ခြင်းအတွက် ကျပ်(၂၅၀. ၀၀)သန်း၊ စက်ပစ္စည်း ကိရိယာတန်ဖိုး အမေရိကန်ဒေါ်လာ (၀. ၄)သန်းနှင့် ညီမျှသော ကျပ် (၅၀၀. ၀၀)သန်း၊ စက်ရုံငှားရမ်းခအတွက် ကျပ်(၁၂၂. ၄၀)သန်း၊ ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းတန်ဖိုး ကျပ်(၂၅. ၀၀)သန်းတို့ဖြင့် ထည့်ဝင်ရင်းနှီး မြှုပ်နှံမည်ဖြစ်ပါသည်။

၄။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် အခွန်ဘဏ္ဍာငွေများရရှိစေရန် အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများ အတွက် အလုပ်အကိုင်အခွင့်အလမ်းသစ်များ ပေါ်ပေါက်လာစေရန်အတွက်လည်းကောင်း လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀ အရ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်တို့ကို ခံစားခွင့်ပြုပါရန် လျှောက်ထားအပ်ပါသည်။

# ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်

# GOLDEN ROYAL MYAT CO.,LTD

၅။ အဆိုပါ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းရပ်အတွက် ပြည်ထောင်စုမြန်မာနိုင်ငံတော် ရင်းနှီးမြှုပ်နှံမှုကော်မရှင်အနေဖြင့် ခွင့်ပြုမိန့်ထုတ်ပေးနိုင်ရန် ဤလျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါ အထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ကမကထပြုသူ၏ လုပ်ငန်းအဆိုပြုချက်။
(ခ) ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍တွက်ချက်မှုဇယားများ။
(ဂ) မြေနှင့်အဆောက်အဦငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၏ စာရွက်စာတမ်း အထောက်အထားများ။
(ဃ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေး အထောက်အထားများ။
(င) ကုမ္ပဏီမှတ်ပုံတင်လက်မှတ် မိတ္တူ။
(စ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း။

လေးစားစွာဖြင့်

DAW AYE AYE LWIN
MANAGING DIRECTOR
GOLDEN ROYAL MYAT CO.,LTD.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ဇန်နဝါရီလ၊ (၁၈)ရက်။

အကြောင်းအရာ ။ ။"ရွှေတော်ဝင်မြတ်"ကုမ္ပဏီလီမိတက်မှ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ် ရောင်းချ သော လုပ်ငန်းအားဆောင်ရွက်ရန် လျှောက်ထားခြင်းနှင့် စပ်လျဉ်း၍ ကတိဝန်ခံချက် တင်ပြခြင်း။

အထက်ပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေအရ "ရွှေတော်ဝင်မြတ်" ကုမ္ပဏီလီမိတက် (GOLDEN ROYAL MYAT COMPANY LIMITED)သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းမှ ငှားရမ်းထားသော မြေ (၅. ၄၅၄၆) ဧကပေါ်တွင် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်သည့် လုပ်ငန်းများအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလျှောက်ထားရာတွင် အောက်ဖော်ပြပါတို့ကို ကတိပြုပါသည်။

(က) လုပ်ငန်းသည် မြန်မာနိုင်ငံသားများ ပိုင်ဆိုင်သော လုပ်ငန်းဖြစ်ပါသည်။

(ခ) ကုမ္ပဏီအနေဖြင့် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်သည့် လုပ်ငန်းများကို စနစ်တကျအောင်မြင်စွာ ဆောင်ရွက်မည်ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်အစိုးရမှ မြေယာနှင့်စပ်လျဉ်း၍ သတ်မှတ်ပြဋ္ဌာန်းထားသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(ဃ) ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင် သဘာဝပတ်ဝန်းကျင်ထိမ်းသိမ်းရေး ဥပဒေအရ လိုအပ်သော Environment Impact Assessment (EIA), Environmental Management Plan (EMP) စသည့် အစီအမံများအား ရေးဆွဲဆောင်ရွက်ပါမည်။

(င) မီးဘေးကြိုတင်ကာကွယ်မှုကိုလည်း စီမံဆောင်ရွက်ထားပြီး နိုင်ငံတော်မှချမှတ်ပြဋ္ဌာန်းထားသော ဥပဒေ၊ နည်းဥပဒေ၊ စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများ၊ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရေး စသည်များကို တိကျစွာလိုက်နာ၊ ဆောင်ရွက်သွားပါမည်ဟု ကတိပြုပါသည်။

(စ) စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းသို့ ပေးသွင်းရမည့် မြေငှားရမ်းခများကို တိကျမှန်ကန်စွာ ပေးသွင်းခြင်း၊ MIC သို့ အစီရင်ခံစာများ (Report) များအား မှန်မှန်တင်ပြခြင်း။ အခွန်ဌာနသို့ စာရင်းများကို တိကျမှန်ကန်စွာတင်ပြခြင်း၊ အခွန်ကင်းလွတ်ကာလပြီးဆုံးချိန် တွင်လည်း ကုမ္ပဏီများဆိုင်ရာ အခွန်လုပ်ငန်းစုရုံးသို့ စာရင်းများအား တိကျမှန်ကန်စွာတင်ပြခြင်း၊ ပေးသွင်းရမည့် အခွန်များကို မှန်ကန်စွာ ပေးဆောင်ခြင်းတို့ကို ဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

(ဆ) ကုမ္ပဏီ၏ဘဏ်စာရင်း (Bank Account) များကိုလည်း MFTB (သို့) MICB (သို့) ပုဂ္ဂလိကဘဏ်များတွင် ဖွင့်လှစ်ထားရှိမည်ဟု ကတိပြုပါသည်။

(ဇ) လိုအပ်သော စက်နှင့်စက်ပစ္စည်းအသစ်များကိုသာ ပြည်ပမှတင်သွင်းမည်ဖြစ်ကြောင်းကို ကတိပြုပါသည်။

သို့ဖြစ်ပါ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုအရ လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် တင်ပြ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

DAW AYE AYE LWIN
MANAGING DIRECTOR
GOLDEN ROYAL MYAT CO.,LTD.

ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်
GOLDEN ROYAL MYAT CO.,LTD

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ၊ (၁၈)ရက်။

အကြောင်းအရာ ။ ။"ရွှေတော်ဝင်မြတ်" ကုမ္ပဏီ လီမိတက်၏ ဆပ်ပြာစက်ရုံအား အဆိုပြုတင်ပြသော လုပ်ငန်းနှင့်ပတ်သက်၍ ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်များ တင်ပြခြင်း။

"ရွှေတော်ဝင်မြတ်" ကုမ္ပဏီလီမိတက် (GOLDEN ROYAL MYAT COMPANY LIMITED)သည် မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ်(၉×၁၀)လမ်းကြား၊ (၇၇×၇၈)လမ်းကြားရှိ ဆပ်ပြာစက်ရုံ(မန္တလေး)၊ မြေ(၅. ၄၅၄၆)ဧက တွင် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ရောင်းချမည့် လုပ်ငန်းများ အား ဆောင်ရွက်ရာတွင် ဝန်ထမ်းရေးရာပိုင်းအတွက် အောက်ဖော်ပြပါတို့ကို ဆောင်ရွက်သွားမည်ဖြစ်ပါမည်။

၁။ ဤရင်းနှီးမြှုပ်နှံမှုသည် ကာလရှည်လုပ်ငန်းဖြစ်သည့်အားလျော်စွာ၊ ဝန်ထမ်းများကို ဘဝလုံခြုံမှု ရှိသည့် ကောင်းမွန်သော လုပ်ငန်းခွင်အဖြစ် ဖန်တီးစီစဉ်ထားရှိပေးမည်ဖြစ်ပါသည်။

၂။ "ရွှေတော်ဝင်မြတ်" ကုမ္ပဏီလီမိတက်သည် ဝန်ထမ်းသက်သာချောင်ချိရေးအတွက် လူမှုဖူလုံရေး ဥပဒေအရ ခံစားခွင့်များ အပြည့်အဝခံစားနိုင်ခွင့်အတွက် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၃။ တည်ဆောက်ရေးလုပ်ငန်းများတွင် စက်ရုံနှင့် ဝန်ထမ်းများအတွက် ကြို/ပို့ယာဉ်များ စီစဉ်ထားရှိပါမည်။

၄။ လုပ်ငန်းခွင်အချိန်တွင်း ဝန်ထမ်းများကို ကျန်းမာရေးနှင့် ကိုက်ညီသည့် အာဟာရပြည့် အစားအစာများ လုပ်ငန်းချိန်အလိုက် ကျွေးမွေးမည်ဖြစ်ပါသည်။

၅။ အုပ်ချုပ်မှုပိုင်း တာဝန်ယူဆောင်ရွက်နိုင်ရန် အလားအလာရှိသူများအား အဆင့်မြင့်ပညာ ဆက်လက်ဆည်းပူးနိုင်ရန် အထောက်အပံ့များဖြင့် လေ့ကျင့်၊ မွေးထုတ်ပေးရန် အစီအစဉ်ရှိပါသည်။

၆။ ထို့အပြင်ကုမ္ပဏီ၏ Corporate Social Responsibility အစီအစဉ်အရ ဝန်ထမ်းများ၏ ကျန်းမာရေး သာရေး၊ နာရေးနှင့် ဝန်ထမ်းများ၏ သားသမီးများ ပညာရေးကို ထိရောက်စွာ ထောက်မ၊ ပံ့ပိုးနိုင်သည့် အစီစဉ်များဖြင့် ဆောင်ရွက်သွားမည်ဖြစ်ကြောင်းတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

DAW AYE AYE LWIN
MANAGING DIRECTOR
GOLDEN ROYAL MYAT CO.,LTD.

No.(40), Myawaddy Min Gyi Street, Hlaing Thar Yar, Industrial Zone (4), Hlaing Thar Yar, Township, Yangon, Myanmar

ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်

# GOLDEN ROYAL MYAT CO.,LTD

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ၊ (၁၈)ရက်။

အကြောင်းအရာ ။ ။ **<u>မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်တင်ပြခြင်း။</u>**

အထက်ဖော်ပြပါကိစ္စနှင့် စပ်လျဉ်း၍ "ရွှေတော်ဝင်မြတ်" ကုမ္ပဏီလီမိတက် (GOLDEN ROYAL MYAT COMPANY LIMITED) အနေဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ရောင်းချမည့် လုပ်ငန်းများအား လုပ်ကိုင်ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့်လျှောက်ထားခြင်းဖြစ်ပါသည်။

ကုမ္ပဏီအနေဖြင့် MIC ခွင့်ပြုမိန့်ရရှိသည့် အချိန်မှစ၍ လုပ်ငန်းလုပ်ကိုင်ရာတွင် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်သည့်အနေဖြင့် -

(၁) မီးလောင်မှုကိုကာကွယ်ရန် သံကူ၊ ကွန်ကရစ် (RC) ဖြင့် ရေဂါလံ (၅၀,၀၀၀)ဆန့် ရေလှောင်ကန်ကြီး ကို တည်ဆောက်ထားမည် ဖြစ်ပါသည်။
(၂) လိုအပ်မည့် ရေပုံး၊ မီးကပ်၊ မီးချိတ်၊ သဲအိတ်၊ မီးသတ်ဆေးဘူးများကို ထားရှိမည်ဖြစ်ပါသည်။
(၃) လုပ်ငန်းခွင်နေရာများတွင် မီးဘေးအန္တရာယ် တားဆီးကာကွယ်ရန် စည်းကမ်းချက်များ ထားရှိ၍ ဝန်ထမ်းများနှင့် အလုပ်သမားများအား တိကျစွာ လိုက်နာဆောင်ရွက်ရန် စီမံထားရှိပါမည်။
(၄) အရေးပေါ်မီးသတ်နည်းပညာများ၊ ကာကွယ်နည်းများကို လေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါသည်။
(၅) လုပ်ငန်းခွင်အတွင်း ဆေးလိပ်သောက်ခြင်းနှင့် ထမင်း/ဟင်းချက်ခြင်းများ မပြုလုပ်ရန်နှင့် လျှပ်စစ်အန္တရာယ်များ မဖြစ်ပေါ်အောင်ကြိုတင်ကာကွယ်နည်းများကို ထားရှိဆောင်ရွက်သွားမည် ဖြစ်ပါသည်။

လေးစားစွာဖြင့်

DAW AYE AYE LWIN
MANAGING DIRECTOR
GOLDEN ROYAL MYAT CO.,LTD.

No.(40), Myawaddy Min Gyi Street, Hlaing Thar Yar, Industrial Zone (4), Hlaing Thar Yar, Township, Yangon, Myanmar

# ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်
# GOLDEN ROYAL MYAT CO.,LTD

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ၊ (၁၈)ရက်။

အကြောင်းအရာ ။ ။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်။

"ရွှေတော်ဝင်မြတ်" ကုမ္ပဏီလီမိတက် (GOLDEN ROYAL MYAT COMPANY LIMITED)သည် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်သောဆပ်ပြာစက်ရုံအား လည်ပတ် ဆောင်ရွက်နေစဉ် ကာလတစ်လျှောက်လုံး၌ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးလုပ်ငန်းစဉ်များကို အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်သွားပါမည်။

(က) စက်ရုံဝန်းကျင်အတွင်း လေကာပင်များအပါအဝင် အရိပ်ရအပင်များ၊ အမြဲစိမ်းနှစ်တို/နှစ်ရှည်ပင်များ စိုက်ပျိုးပြီး၊ မြေဆီလွှာ၊ ဖုန်မှုန့်များလွင့်ပါးခြင်းမရှိစေရန် စက်ရုံမြေနေရာများကို အလှမြက်များစိုက်ပျိုးခြင်း၊ လမ်းများကို ကွန်ကရစ်ခင်းခြင်းများဖြင့် မြေယာရှုမျှော်ခင်းများ ထားရှိသွားပါမည်။

(ခ) ပတ်ဝန်းကျင်ကိုထိခိုက်စေမည့် လေထုညစ်ညမ်းမှု၊ မြေဆီလွှာထိခိုက်မှုများ မဖြစ်စေရန် လိုအပ်သည်များကို တာဝန်ယူဆောင်ရွက်သွားပါမည်။

(ဂ) လေထုညစ်ညမ်းမှုမှကာကွယ်ရန် ညစ်ညမ်းသောလေထုထုတ်လွှတ်မှု နည်းပါးသောပစ္စည်းများ၊ နည်းပညာနှင့် Dust Collector များကို အသုံးပြုပါမည်။

(ဃ) စက်ရုံမှထွက်ရှိသည့်စွန့်ပစ်ပစ္စည်းများ အမှိုက်များနှင့် ညစ်ညမ်းရေများအား မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ (MCDC) မှ ညွှန်ကြားချက်များနှင့်အညီ သန့်စင်ထားရှိပြီး သန့်စင်ခြင်းနှင့် စနစ်တကျ စွန့်ပစ်ခြင်းတို့ကို ပြုလုပ်ပါမည်။

(င) ပတ်ဝန်းကျင်အကျိုးသက်ရောက်မှု လေ့လာချက်၊ လူနေမှုပတ်ဝန်းကျင်အကျိုးသက်ရောက်မှု လေ့လာချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ အစီအမံများအားလိုအပ်ပါက သက်ဆိုင်ရာဌာနများသို့ လျှောက်ထား၍ သက်ဆိုင်ရာဌာနများသို့ တင်ပြသွားပါမည်။

လေးစားစွာဖြင့်

**DAW AYE AYE LWIN**
**MANAGING DIRECTOR**
**GOLDEN ROYAL MYAT CO.,LTD.**

# ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်
# GOLDEN ROYAL MYAT CO.,LTD

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ မတ်လ၊ (၂၁ )ရက်။

အကြောင်းအရာ ။ ။ ဆပ်ပြာစက်ရုံ(မန္တလေး)၏ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန၊ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့ ၏ သဘောထားမှတ်ချက်နှင့်အညီပြင်ဆင်ခြင်းကိစ္စ တင်ပြခြင်း။

ရည်ညွှန်းချက် ။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး၏ ၂၀၁၆ ခုနှစ်၊ မတ်လ (၁၁) ရက်စွဲပါစာအမှတ်၊ ရက-၃/မ-၁၃၂၄/၂၀၁၆(၄၀၂)အရ

အထက်ဖော်ပြပါကိစ္စနှင့် စပ်လျဉ်း၍ "ရွှေတော်ဝင်မြတ်" ကုမ္ပဏီလီမိတက် (GOLDEN ROYAL MYAT COMPANY LIMITED) အနေဖြင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ် ရောင်းချမည့် လုပ်ငန်းများအားလုပ်ကိုင် ဆောင်ရွက်ရန်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ခွင့်ပြုမိန့် လျှောက်ထားခြင်းဖြစ်ပါသည်။

ကျွန်တော်များ(GOLDEN ROYAL MYAT COMPANY LIMITED)အနေဖြင့် မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်ရှိ အထွေထွေအုပ်ချုပ်ရေးဌာန၏ လမ်းညွှန်ချက်နှင့်အညီ လိုက်နာဆောင်ရွက်ခြင်း၊ အဆိုပြုလုပ်ငန်းတွင် နေထိုင်လျက်ရှိသော သူများနှင့်လည်း ညှိနှိုင်းဆောင်ရွက်သွားမည် ဖြစ်ပါသည်။ ထို့အပြင် ပတ်ဝန်းကျင် နှင့် လူမှုရေးထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေး တို့အတွက် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental Impact Assessment - EIA) နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan - EMP) အစီအစဉ်များကို ရေးဆွဲတင်ပြမည် ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

DAW AYE AYE LWIN
MANAGING DIRECTOR
GOLDEN ROYAL MYAT CO.,LTD.

# ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်

# GOLDEN ROYAL MYAT CO.,LTD

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ ဇန်ဝါရီလ၊ (၁၈)ရက်။

အကြောင်းအရာ ။ ။ <u>လူမှုရေး အကျိုးပြုလုပ်ငန်း ဆောင်ရွက်မှုကို တင်ပြခြင်း။</u>

အထက်ပါအကြောင်းအရာကိစ္စနှင့် ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ 'ရွှေတော်ဝင်မြတ်"ကုမ္ပဏီလီမိတက် (GOLDEN ROYAL MYAT COMPANY LIMITED) သည် မန္တလေးတိုင်းဒေသကြီး အောင်မြေသာဇံမြို့နယ်၊ အမရဍ္ဍာနီ၊ ရှမ်းဝိုင်းရပ် (၉×၁၀)လမ်းကြား၊ (၇၇×၇၈)လမ်းကြားရှိ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် မြေပေါ်တွင် ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ရောင်းချသော လုပ်ငန်းများ ဆောင်ရွက်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်အနေဖြင့် လုပ်ငန်းလည်ပတ်မှုမှ ရရှိမည်ဟုခန့်မှန်းထားသည့် အသားတင်အမြတ်ငွေမှ (၂%)ကို လူမှုရေးအကျိုးပြုလုပ်ငန်း (CSR) ကိစ္စရပ်များတွင် သုံးစွဲနိုင်ပါရန် ရန်ပုံငွေလျာထားပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

DAW AYE AYE LWIN
MANAGING DIRECTOR
GOLDEN ROYAL MYAT CO.,LTD.

ပုံစံ (မနသ-၁)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
[ ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ဂ ]

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ် ၊ တော်ဝင် / ၁၃၅ / ၂၀၁၆
ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ၊ ( )ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါ အချက်များကို ဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | | |
|---|---|---|
| (က) | အမည် | - ဒေါ်အေးအေးလွင် |
| (ခ) | အဖအမည် | - ဦးအောင်ငါး |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - ၁၂/ပဘတ (နိုင်)၀၁၈၅၆၄ |
| (ဃ) | နေရပ်လိပ်စာ | - အမှတ် (၁၆၃)၊ ၄၇လမ်း၊(၁၀) ရပ်ကွက်၊<br>- ဗိုလ်တထောင်မြို့နယ်၊<br>- ရန်ကုန်တိုင်းဒေသကြီး။ |
| (င) | လူမျိုး၊ ဘာသာ | - ဗမာ၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | - ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက် |
| (ဆ) | လုပ်ငန်းအမျိုးအစား | - ထုတ်လုပ်ရေး |
| (ဇ) | အဖွဲ့အစည်း တည်ရှိရာအရပ် | - အမှတ် (၁၆၃)၊ ၄၇လမ်း၊(၁၀) ရပ်ကွက်၊<br>- ဗိုလ်တထောင်မြို့နယ်၊<br>- ရန်ကုန်တိုင်းဒေသကြီး။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏ -

(က) အမည် - မရှိပါ

(ခ) အဖအမည် - - -

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် - -

(ဃ) နေရပ်လိပ်စာ - -

(င) လူမျိုး၊ ဘာသာ - -

(စ) အဖွဲ့အစည်းအမည် - -

(ဆ) လုပ်ငန်းအမျိုးအစား - -

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် - -
(နှစ်ဦးသို့မဟုတ် အဖွဲ့အစည်း ၂ ခု ထက်ပိုပါက သီးခြားစာရွက်တွင် ဖော်ပြပူးတွဲရန်)

၃။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား -

(က) ကုန်ထုတ်လုပ်မှု လုပ်ငန်း - အရည်အသွေးကောင်းမွန်သော နိုင်ငံတကာ အဆင့်မီ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ခြင်း။

(ခ) ဝန်ဆောင်မှု လုပ်ငန်း
(ကုန်ပစ္စည်းအမည် သို့မဟုတ် ဝန်ဆောင်မှု အမျိုးအစားကို ဖော်ပြရန်)

၄။ လုပ်ကိုင်မည့် စီးပွားရေးပုံစံ -

(က) နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

---------------------------------------------------------------------------

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

---------------------------------------------------------------------------

(ဂ) အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း

---------------------------------------------------------------------------

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန်-

(က) တစ်ဦးတည်းပိုင် ------------------------------------------------------------

(ခ) ဖက်စပ် /အစုအစပ်လုပ်ငန်း ---------------------------------------------------

(ဂ) လီမိတက်ကုမ္ပဏီ ရွှေတော်ဝင်မြတ် ကုမ္ပဏီ လီမိတက်

(ဃ) သမဝါယမအသင်း -----------------------------------------------------------

(အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ/ အများပိုင်ကုမ္ပဏီဟု ဖော်ပြ၍ ထည့်ဝင်မည့် မတည်ငွေရင်းအမျိုးအစား၊ စီမံခန့်ခွဲသူ/စီမံခန့်ခွဲမည့်သူများ၏ အမည်၊ နေရပ်လိပ်စာများနှင့် ရာထူးတို့ကို ပူးတွဲတင် ပြရန်)

၆။ ဖက်စပ်/ အစုစပ်လုပ်ငန်းဖြစ်ပါက -

(က) အစုစပ်တို့က ထည့်ဝင်မည့် အစုငွေအမျိုးအစားနှင့် ပမာဏ

-------------------------------------------------------------------------------

(ခ) အကျိုးအမြတ်ခွဲဝေမည့် အမျိုးအစား

-------------------------------------------------------------------------------

(ဂ) အစုဝင်များ၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များ

-------------------------------------------------------------------------------

(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့် ဖော်ပြရန်)။

၇။ သမဝါယမအသင်း/လီမိတက်ကုမ္ပဏီ ဖြစ်ပါက -

(က) ခွင့်ပြု မတည်ငွေရင်း - ကျပ် ( ၁,၀၀၀,၀၀၀,၀၀၀/-)
(ကျပ်သန်းတစ်ထောင်တိတိ)

(ခ) အစုရှယ်ယာ အမျိုးအစား - ကျပ် ၁၀၀,၀၀၀/- တန် အစုရှယ်ယာပေါင်း
၁၀,၀၀၀ (တစ်သောင်းတိတိ)

(ဂ) အစုရှယ်ယာဝင်များက ထည့်ဝင်မည့် အစုရှယ်ယာပမာဏ - ကျပ် ၂,၀၀၀,၀၀၀,၀၀၀/-

မှတ်ချက်။ အဆိုပြုလုပ်ငန်းအတွက် ကော်မရှင်၏ ခွင့်ပြုချက်ရရှိပါက ခွင့်ပြုမတည်ငွေရင်းကို မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေနှင့်အညီ တိုးမြှင့်ပြင်ဆင်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် အဖွဲ့အစည်းနှင့် သက်ဆိုင်သော အချက်အလက်များ -

(က) မတည်ငွေရင်းမမာဏ (ကျပ်)

| | အမေရိကန် ဒေါ်လာ | ကျပ် | စုစုပေါင်း ညီမျှသောကျပ် (1US$ - ၁၂၅၀ ကျပ်) |
|---|---|---|---|
| (၁) မြေနှင့်အဆောက်အဦငှားရမ်းခ | - | ၆၁၇,၂၀၀,၀၀၀ | ၆၁၇,၂၀၀,၀၀၀ |
| (၂) အဆောက်အဦသစ် ဆောက်လုပ်စရိတ် | - | ၅၀၀,၀၀၀,၀၀၀ | ၅၀၀,၀၀၀,၀၀၀ |
| (၃) အဆောက်အဦ ပြင်ဆင်စရိတ် | - | ၂၅၀,၀၀၀,၀၀၀ | ၂၅၀,၀၀၀,၀၀၀ |
| (၄) စက်နှင့်စက်ပစ္စည်း | ၄၀၀,၀၀၀ | | ၅၀၀,၀၀၀,၀၀၀ |
| (၅) ပရိဘောဂနှင့်အခြားပစ္စည်း | - | ၂၅,၀၀၀,၀၀၀ | ၂၅,၀၀၀,၀၀၀ |
| (၆) လှည့်လည်ငွေရင်း | - | ၁,၀၃၈,၄၇၀,၀၀၀ | ၁,၀၃၈,၄၇၀,၀၀၀ |
| စုစုပေါင်း | ၄၀၀,၀၀၀ | ၂,၄၃၀,၆၇၀,၀၀၀ | ၂,၉၃၀,၆၇၀,၀၀၀ |

(ခ) နိုင်ငံခြားမှ တင်သွင်းရန် လိုအပ်သည့်

| | အမေရိကန် ဒေါ်လာ | ညီမျှသောကျပ် (1US$ - ၁၂၅၀ ကျပ်) |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ စသည့် ပစ္စည်းတို့၏ တန်ဖိုးပမာဏ | ၄၀၀,၀၀၀ | ၅၀၀,၀၀၀,၀၀၀ |
| စုစုပေါင်း | ၄၀၀,၀၀၀ | ၅၀၀,၀၀၀,၀၀၀ |

(အသေးစိတ်စာရင်း ပူးတွဲတင်ပြရန်) - နောက်ဆက်တွဲ (၃)

(၂) ကုန်ကြမ်းပစ္စည်းများနှင့်အခြား အလားတူ ပစ္စည်းတို့၏ တန်ဖိုး - နောက်ဆက်တွဲ (၄)

(၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏ တန်ဖိုးပမာဏ

(ဂ) တည်ဆောက်မှုကာလ - ၁ နှစ်

(ဃ) ပဏာမ စူးစမ်းလေ့လာမှု ပြုလုပ်မည့်ကာလ

(င) တည်ဆောက်မှု စတင်မည့်အချိန် - မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရပြီး (၆လ)အတွင်း

(စ) ရင်းနှီးမြှုပ်နှံမှုကာလ - နှစ် (၅၀+၁၀+၁၀)

၉။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) လုပ်ငန်းအမျိုးအစား - ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ ရောင်းချခြင်း လုပ်ငန်းများ

(ခ) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်ဒေသများ - အောင်မြေသာစံမြို့နယ်၊ အမရဌာနီ၊ ရှမ်းဝိုင်းရပ် (၉×၁၀)လမ်းကြား၊ (၇၇×၇၈)လမ်းကြား၊ မန္တလေးတိုင်းဒေသကြီး၊

(ဂ) ဆောင်ရွက်ပုံနည်းစနစ် - ဆပ်ပြာအမျိုးမျိုးထုတ်ခြင်းလုပ်ငန်းအား စက်များ၊ ကျွမ်းကျင်လုပ်သားများဖြင့် ထုတ်လုပ်မည်ဖြစ်ပါသည်။

(ဃ) နှစ်စဉ် စက်သုံးဆီလိုအပ်ချက် -

| | အမျိုးအစား | အရေအတွက် |
|---|---|---|
| ၁။ | မီးထိုးဆီ | ၆၈၀၀၀ ဂါလံ |
| ၂။ | ဒီဇယ်ဆီ | ၃၉၀၀ ဂါလံ |
| ၃။ | ဓါတ်ဆီ | ၁၇၀၀ ဂါလံ |

(င) နှစ်စဉ် လျှပ်စစ်ဓာတ်အားလိုအပ်ချက် -

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓာတ်အား | ၂၄၀၀၀၀ ယူနစ် |
| ၂။ ဓာတ်ဆီ/ဒီဇယ်အင်ဂျင်စက်အား | ၂၀ မြင်းကောင်ရေ |
| ၃။ ဘွိုင်လာ အသုံးပြု အင်ဂျင်စက်အား | - |
| ၄။ သဘာဝဓာတ်ငွေ့သုံးစက်အား | - |
| ၅။ ပေးပို့သည့်အခြားအား (ရေအား/လေအား စသည်များ) | - |

(စ) နှစ်စဉ် ရေလိုအပ်ချက် - (၄,၀၀၀,၀၀၀) ဂါလံ

(နေ့စဉ် ရေလိုအပ်ချက်ရှိလျှင် ဖော်ပြရန်)

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ ကုန်ကြမ်း လိုအပ်ချက်

၁။ အဓိက ကုန်ကြမ်း - နောက်ဆက်တွဲ (၄)

၂။ အထောက်အကူ ကုန်ကြမ်း - နောက်ဆက်တွဲ (၄)

၃။ စက်သုံးဆီ/ ဓာတ်ငွေ့များ -

| | | | | |
|---|---|---|---|---|
| (၁) | ဒီဇယ်ဆီ | ဂါလံ | ၃၉၀၀ | ၁၃. ၂၆သန်း |
| (၂) | ဓါတ်ဆီ | ဂါလံ | ၁၇၀၀ | ၅. ၄၄ သန်း |
| (၃) | မီးထိုးဆီ | ဂါလံ | ၆၈၀၀၀ | ၁၇၀. ၀၀သန်း |

(ဈ) အဆောက်အအုံ လိုအပ်ချက် ၁၀၀' × ၁၀၀' × ၂၇' STEEL STRUCTURE

(ဉ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက် ----------
ဆပ်ပြာစက်ရုံ (မန္တလေး) ၏မြေအကျယ် (၅. ၄၅၄၆)ဧက ပေါ်တွင်။

(ည) ခန့်မှန်းထုတ်လုပ်မည့် ကုန်ပစ္စည်း/ ဆောင်ရွက်မည့်ဝန်ဆောင်မှု - နောက်ဆက်တွဲ (၈)

| အမျိုးအမည် | ရေတွက်ပုံ | အရေအတွက် | တန်ဖိုး |
|---|---|---|---|
| ------------ | ------------ | ------------ | ------------ |
| ------------ | ------------ | ------------ | ------------ |
| ------------ | ------------ | ------------ | ------------ |
| ------------ | ------------ | ------------ | ------------ |

(ဋ) ရောင်းချမည့်နည်းစနစ် - ပြည်တွင်း ၁၀၀%

၁၀။ နှစ်စဉ် ကုန်ထုတ်လုပ်မှု/ ဝန်ဆောင်မှုနှင့် စပ်လျဉ်းသောအချက်အလက်များ -

| | | ခန့်မှန်းခြေ | |
|---|---|---|---|
| | | ကျပ်ငွေသန်းပေါင်း | နိုင်ငံခြားငွေ |
| (က) လုပ်ငန်းလည်ပတ်ရန် လိုအပ်မည့်ကျပ်ငွေ | - | နောက်ဆက်တွဲ (၂) | |
| (ခ) လိုအပ်မည့် နိုင်ငံခြားသုံးငွေ | - | နောက်ဆက်တွဲ (၂) | |
| (ဂ) ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ | - | - | |
| (ဃ) ပြည်ပသို့ တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှု တန်ဖိုးပမာဏ | - | - | |
| (င) နှစ်စဉ် ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ဝန်ဆောင်မှု တန်ဖိုးပမာဏ | - | နောက်ဆက်တွဲ (၈) | |

၁၁။ ဆောင်ရွက်မည့် စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့် အမှုထမ်းများ စာရင်း-

(က) ပြည်တွင်းမှ လိုအပ်သည့် အမှုထမ်းများ - နောက်ဆက်တွဲ (၆)

| အမှုထမ်းအမျိုးအစား | ဦးရေ |
|---|---|
| ---------------------- | ----------------- |
| ---------------------- | ----------------- |
| ---------------------- | ----------------- |
| ---------------------- | ----------------- |
| ---------------------- | ----------------- |

(ခ) နိုင်ငံခြားမှ လိုအပ်မည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ - နောက်ဆက်တွဲ (၆-က)

| ကျွမ်းကျင်မှုအမျိုးအစား | ဦးရေ | ခန့်ထားမည့်အချိန်ကာလ |
|---|---|---|
| စက်ပိုင်းဆိုင်ရာ ကျွမ်းကျင် | ၁ ဦး | စက်များတပ်ဆင်ပြီး |
| လျှပ်စစ်ပိုင်းဆိုင်ရာကျွမ်းကျင် | ၁ ဦး | စမ်းသပ်ထုတ်လုပ်စဉ် |
| ဓါတုဗေဒဆိုင်ရာကျွမ်းကျင် | ၁ ဦး | ခန့်ထားရန်ဖြစ်ပါသည်။ |

၁၂။ စီးပွားရေးတွက်ခြေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ -

| | ကျပ်ငွေ သန်းပေါင်း | နိုင်ငံခြားငွေ |
|---|---|---|
| (က) နှစ်စဉ် ဝင်ငွေရရှိမှု | နောက်ဆက်တွဲ - (၈) | |
| (ခ) နှစ်စဉ် လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲ - (၇) | |
| (ဂ) နှစ်စဉ် အသားတင်အမြတ် | နောက်ဆက်တွဲ - (၁၀) | |
| (ဃ) နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲ - (၂) | |
| (င) အရင်းကျေကာလ | နောက်ဆက်တွဲ - (၁၁) | |
| (စ) အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲ - (-) | |
| (ဆ) အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ | နောက်ဆက်တွဲ - (၆) | |

၁၃။ ဆောင်ရွက်ရန် အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ၊ အဆိုပြုတင်ပြသည့် ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း (လိုအပ်သည့်ကိစ္စတွင်)

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း/ ဖွဲ့စည်းခြင်း မရှိသေးပါက သင်းဖွဲ့မှတ်တမ်းမူကြမ်းနှင့် သင်းဖွဲ့စည်းမျဉ်းမူကြမ်း၊

(ဃ) လက်ရှိ ဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့် အခြေအနေ အထောက်အထားများ

လက်မှတ် ---------------------------------------

ဒေါ်အေးအေးလွင်

အမည် ---------------------------------------

အုပ်ချုပ်မှုဒါရိုက်တာ

ရာထူး ---------------------------------------

(လျှောက်ထားသူ)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ၊ (၁၈)ရက်။

အကြောင်းအရာ ။ ။ ဆပ်ပြာစက်ရုံ(မန္တလေး)အား နှစ်ရှည်ငှားရမ်း ဆောင်ရွက်မည့် အဆိုပြုချက်အပေါ် ရှင်းလင်းတင်ပြခြင်း။

"ရွှေတော်ဝင်မြတ်" ကုမ္ပဏီလီမိတက် (GOLDEN ROYAL MYAT COMPANY LIMITED)သည် စက်မှုဝန်ကြီးဌာန၊ မြန်မာ့ဆေးဝါးလုပ်ငန်းပိုင် မန္တလေးတိုင်းအောင်မြေသာစံ မြို့နယ် မြေ(၅. ၄၅၄၆)ဧက ရှိသော ဆပ်ပြာစက်ရုံ(မန္တလေး)အား နှစ်ရှည်ငှားရမ်းဆောင်ရွက်ရန် ကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်း ရှင်းလင်းတင်ပြအပ်ပါသည်။

(က) ဆပ်ပြာ အမျိုးမျိုးအား ထုတ်လုပ်ဖြန့်ဖြူးမည့် အခြေအနေနှင့် ပတ်သက်၍ တင်ပြချက်။

"ရွှေတော်ဝင်မြတ်" ကုမ္ပဏီလီမိတက် (GOLDEN ROYAL MYAT COMPANY LIMITED) အနေဖြင့် ဆပ်ပြာစက်ရုံ(မန္တလေး) မြေ(၅. ၄၅၄၆)ဧကနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦများအား စုစုပေါင်း နှစ် (၂၀) ငှားရမ်းခွင့်ရရှိခဲ့ပါသည်။ ငှားရမ်းရရှိသော အဆောက်အဦများ ယိုယွင်းခြင်းကြောင့်လည်းကောင်း၊ စက်စွမ်းအားကျဆင်းမှုကြောင့် လည်းကောင်း၊ ငှားရမ်းပြီးနောက် ကုမ္ပဏီမှ ယင်းတို့ကို အသစ်တည်ဆောက်ခြင်း၊ စက်များအစားထိုးခြင်း နည်းလမ်း များဖြင့် ဆောင်ရွက်မည်ဖြစ်ပါသည်။ စက်မှုဝန်ကြီးဌာနမှလည်း (၅၀+၁၀+၁၀) စုစုပေါင်းနှစ် (၇၀) ငှားရမ်းရန် ဆန္ဒရှိပါက MIC သို့တင်ပြရန် ခွင့်ပြုခဲ့ခြင်းကြောင့် ယခုအဆိုပြုချက်ကို တင်ပြရခြင်းဖြစ်ပါသည်။

ခွင့်ပြုချက်ရရှိပါက ၁၀၀' × ၁၀၀' × ၂၇' စက်ရုံအဆောက်အဦသစ်ကို တည်ဆောက်ခြင်း၊ စက်ပစ္စည်းများ အစားထိုးလဲလှယ်ခြင်းတို့ကို ပြုလုပ်ပြီး ကုန်ထုတ်လုပ်မှုတိုးမြှင့်ခြင်း၊ ဖြန့်ဖြူးမှုတိုးမြှင့်ခြင်းတို့ကို ဆောင်ရွက်ပါမည်။

(ခ) ကုန်ကြမ်းရယူမည့်ပုံစံတင်ပြခြင်း

ကုမ္ပဏီအနေဖြင့် ပြည်တွင်းကုန်ကြမ်းနှင့် ပြည်ပကုန်ကြမ်းများ ပေါင်းစပ်ကာ လက်ရှိထုတ်ကုန်များကို ဆက်လက်ထုတ်လုပ်ပါမည်။ စက်ရုံအဆောက်အဦအသစ်ဆောက် လုပ်ပြီး စက်အသစ်များ တပ်ဆင်ပြီးစီးပါက ထုတ်ကုန်အမယ်သစ်များကိုလည်း ထပ်မံတိုးမြှင့်ထုတ်လုပ်မည် ဖြစ်ပါသည်။ ကုန်ကြမ်း၊ စာရင်းကို နောက်ဆက်တွဲဖြင့် ဖော်ပြအပ်ပါသည်။

(ဂ) <u>အလုပ်သမားလုပ်ခ လစာပေးသည့်ပုံစံနှင့်လုပ်ခ နှုန်းတင်ပြခြင်း။</u>

ကုမ္ပဏီအနေဖြင့် MIC သို့ ကနဦးနှစ် (၅၀) နှင့် သက်တမ်းတိုး (၁၀)နှစ် (၂)ကြိမ် ငှားရမ်းရန် အဆိုပြုတင်ပြခြင်းကိစ္စတွင် အလုပ်သမားများ၏ လစာနှုန်းထားကို ၂၀၁၅ ခုနှစ်တွင် ဖြစ်ပေါ်နေသော လစာများကို ပျမ်းမျှအခြေခံ တွက်ချက်တင်ပြခြင်း ဖြစ်ပါသည်။ နှစ်ရှည်ငှားရမ်းခြင်းဖြစ်၍ နောင်လာမည့်နှစ်များတွင် အခါအားလျော်စွာ အနိမ့်ဆုံးအခြေခံလစာ ကျပ်-၁၂၀၀၀၀/- ရရှိရန် ထုတ်လုပ်မှုစံနှုန်း သတ်မှတ်ပေးထားပါသည်။ ယင်းစံနှုန်းထက်ပိုမို ထုတ်လုပ်နိုင်သည်နှင့်အမျှ ၎င်းတို့ကို လစာဝင်ငွေများပိုမိုတိုးမြှင့်ရရှိမည်ဖြစ်ပါသည်။ စက်မှုဝန်ကြီးဌာနမှ လွှဲပြောင်းရယူသည့် ဝန်ထမ်းများ၏ လစာကိုလည်း ယခင်ရရှိခဲ့သော လစာထက်မနည်းပေးချေမည် ဖြစ်ပြီး ဆုကြေးကိုလည်း ထည့်သွင်းဖန်တီးထားခြင်းကြောင့် အနိမ့်ဆုံးလစာ ကျပ်-၁၂၀၀၀၀/ မှ အမြင့်ဆုံးလစာ ကျပ်-၃၀၀၀၀၀/ ခန့်ထိ ရရှိနိုင်မည်ဖြစ်ပါသည်။

(ဃ) <u>အလုပ်သမားတစ်ဦး တစ်နေ့ပုံမှန်အလုပ်ချိန်</u>

ကုမ္ပဏီအနေဖြင့်လုပ်သားများ၏ အလုပ်ချိန်ကိုတည်ဆဲဥပဒေ၊ နည်းဥပဒေများအရလည်းကောင်း၊ အလုပ်သမားအလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန၏ အမိန့်ညွှန်ကြားချက်များအရလည်းကောင်း၊ ဆောင်ရွက်မည် ဖြစ်ပါသည်။ တနင်္ဂနွေနေ့နှင့် အခြားအစိုးရရုံးပိတ်ရက်များတွင် လုပ်ငန်းသဘာဝအရ အချိန်ပို ဆင်းရပါက ဥပဒေပါခံစားခွင့်အပြင် ကျွေးမွေးခြင်းကိုလည်း ဆောင်ရွက်ပေးပါမည်။

(င) <u>စက်ရုံအလုပ်သမား အရေအတွက်နှင့် ထမင်းစားဆောင်/ရေချိုးခန်း/သန့်စင်ခန်းထားရှိမှု</u>

(၁) ထမင်းစားဆောင်ကိုလုံလောက်သော အကျယ်အဝန်းထားရှိပါမည်။
(၂) ကျား ရေချိုးခန်း (၃) ခန်း
(၃) ကျား သန့်စင်ခန်း (၆) ခန်း
(၄) မ ရေချိုးခန်း (၅) ခန်း
(၅) မ သန့်စင်ခန်း (၁၀) ခန်း
(၆) ကုန်ထုတ်လုပ်သားများ လုပ်ငန်းခွင်သုံးဝတ်စုံ (PPE) Boiler Suit များ ထားရှိပေးပါမည်။ လုပ်သားများ၏ အသုံးအဆောင်အဝတ်အစားများ ထားရှိရန်အတွက် Locker များလည်း ထားရှိပေးပါမည်။ ထမင်းစားချိန်ကို ရုံးဝန်ထမ်းများနှင့် ထုတ်လုပ်မှုဝန်ထမ်းများ နှစ်ကြိမ်ခွဲ၍ စားသောက်နိုင်ရန် စီစဉ်ထားရှိပါမည်။ အထက်ပါအတိုင်း သန့်စင်ခန်းလုံလောက်စွာထားရှိပြီး လိုအပ်သော သန့်စင်ခန်းသုံးပစ္စည်း၊ ရေ၊ ဆပ်ပြာနှင့် ရေအိမ်သုံးစက္ကူများ ပံ့ပိုးပေးပါမည်။ မီးသတ်ပစ္စည်းအမျိုးမျိုးကို လိုအပ်သော ပွိုင့်အလိုက်ထားရှိပြီး မီးဘေးလုံခြုံရေး၊ လုပ်ငန်းခွင်လုံခြုံရေးကိုပါ စီစဉ်ထားရှိပေးပါမည်။ လုပ်ငန်းခွင်ဘေးကင်း လုံခြုံရေးအစီအမံများကိုလည်း ထားရှိပါမည်။ လျှပ်စစ်ကြောင့်လည်းကောင်း၊ ဆီကြောင့်လည်းကောင်း ဖြစ်ပေါ်နိုင်သည့် မီးဘေးလုံခြုံရေး အစီအမံလည်း ထားရှိပါမည်။

(စ) <u>အဆောက်အဦဆောက်လုပ်ခြင်း</u>

စက်မှုဝန်ကြီးဌာနမှ ငှားရမ်းခွင့်ရရှိစဉ်က နှစ်ကာလ ကြာမြင့်ခြင်းကြောင့်လည်းကောင်း၊ ရာသီဥတုဒဏ်ကြောင့်လည်းကောင်း၊ ယိုယွင်းနေသည့်အဆောက်အဦများကို ခွင့်ပြုချက်ရယူ၍ မွမ်းမံပြင်ဆင်ပါမည်။ အန္တရာယ်ရှိနိုင်သည့် အဆောက်အဦးများကို ဖြိုဖျက်၍ ပြုပြင်တည်ဆောက်ပါမည်။ ထုတ်လုပ်မှုတိုးမြှင့်ရန်အတွက် ၁၀၀'× ၁၀၀'× ၂၇' အရွယ်ရှိ Steel Structure အဆောက်အဦကိုလည်း ထပ်မံတည်ဆောက်မည်ဖြစ်ပါသည်။

(ဆ) <u>ရရှိလာမည့် အကျိုးကျေးဇူးများ</u>

(၁) ဒေသတွင်းဖွံ့ဖြိုးတိုးတက်မှု ရရှိပါမည်။
(၂) နိုင်ငံတော်အတွက် အခွန်ငွေ ရရှိစေပါမည်။
(၃) မိသားစု (၁၆၃) ခန့်၊ လူဦးရေ (၈၁၅) ဦးခန့်ကို အလုပ်အကျွေးပြုနိုင်ပါမည်။
(၄) အလုပ်အကိုင် အခွင့်အလမ်း တိုးတက်စေပါသည်။
(၅) နိုင်ငံတော်မှ ချမှတ်ထားသည့် ဆင်းရဲမှုလျှော့ချရေးကို တစ်ဖက်တစ်လမ်းမှ ဖြည့်ဆည်းပေးနိုင် ပါသည်။
(၆) သွင်းကုန်အစားထိုးလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် နိုင်ငံခြားငွေသုံးစွဲမှုကို လျှော့နည်းကျဆင်းစေပါသည်။

လေးစားစွာဖြင့်

DAW AYE AYE LWIN
MANAGING DIRECTOR
GOLDEN ROYAL MYAT CO.,LTD.

ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်

# GOLDEN ROYAL MYAT CO.,LTD

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ၊ (၁၈)ရက်။

အကြောင်းအရာ ။ ။"ရွှေတော်ဝင်မြတ်"ကုမ္ပဏီလီမိတက်မှ ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ခြင်းလုပ်ငန်းအား ခွင့်ပြုပေးပါရန် အဆိုပြုတင်ပြခြင်းကိစ္စ။

၁။ အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များ မြန်မာနိုင်ငံသား၊ တိုင်းရင်းသား လုပ်ငန်းရှင်များမှ ပိုင်ဆိုင်သော ကုမ္ပဏီဖြစ်သည့် "ရွှေတော်ဝင်မြတ်"ကုမ္ပဏီလီမိတက် (GOLDEN ROYAL MYAT COMPANY LIMITED) သည် မန္တလေးတိုင်းဒေသကြီး၊ အောင်မြေသာစံမြို့နယ်၊ အမရဋ္ဌာနီ၊ ရှမ်းဝိုင်းရပ်(၉×၁၀)လမ်းကြား၊ (၇၇×၇၈)လမ်းကြားရှိ ဆပ်ပြာစက်ရုံ(မန္တလေး)၊ မြေ(၅. ၄၅၄၆)ဧကနှင့် ယင်း မြေပေါ်ရှိ အဆောက်အဦများအား နှစ်(၇၀)သက်တမ်းဖြင့် ငှားရမ်း၍ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ရောင်းချမည့် လုပ်ငန်းများအား ဆောင်ရွက်၊ ရင်းနှီး မြှုပ်နှံမည် ဖြစ်ပါသည်။

၂။ ကုမ္ပဏီအနေဖြင့် အဆိုပါစက်ရုံတွင် ဆပ်ပြာအမျိုးမျိုးထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းများကို မူလရင်းနှီးမြှုပ်နှံမှုတန်ဖိုး ကျပ် (၉၃၀. ၆၇)သန်းအပြင် ကျပ် (၂၀၀၀. ၀၀)သန်း ထပ်မံရင်းနှီးမြှုပ်နှံ၍ စက်ပစ္စည်းအသစ်များ တပ်ဆင်ပြီးလုပ်ငန်းများ တိုးချဲ့ ဆောင်ရွက်မည် ဖြစ်ပါသည်။

၃။ ဤသို့ လုပ်ကိုင်ဆောင်ရွက် ၊ ရင်းနှီးမြှုပ်နှံသော လုပ်ငန်းရပ်မှ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်၊ အခွင့်အလမ်းများ ရရှိစေခြင်းနှင့် နိုင်ငံတော်တွင် အခွန်အခများ ရရှိစေခြင်း၊ နိုင်ငံတကာအဆင့်မီ ဆပ်ပြာအမျိုးမျိုးအား မြန်မာနိုင်ငံသားများမှ ဈေးနှုန်းသက်သာစွာ ဝယ်ယူသုံးစွဲနိုင်မည်ဖြစ်ခြင်း တို့ကြောင့် ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်မှ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းရပ်အား ခွင့်ပြုပေးပါရန် အဆိုပြုချက်ကို တင်ပြ၊ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

DAW AYE AYE LWIN
MANAGING DIRECTOR
GOLDEN ROYAL MYAT CO.,LTD.

Annex-1

# Golden Royal Myat Company Limited
## Soap Factory (Mandalay)

ဒါရိုက်တာများစာရင်း

| စဉ် | အမည် | မှတ်ပုံတင်အမှတ် | ရာထူး | ရှယ်ယာ | လိပ်စာ |
|---|---|---|---|---|---|
| ၁။ | ဒေါ်အေးအေးလွင် | ၁၂/ပဘတ(နိုင်) ၀၁၈၅၆၄ | အုပ်ချုပ်မှု ဒါရိုက်တာ | ၄၉၉၅ | အမှတ်(၁၆၃)၊ ၄၇လမ်း ဗိုလ်တထောင်မြို့နယ်၊ ရန်ကုန်မြို့။ |
| ၂။ | ဦးမြတ်ကိုကို | ၈/ရနခ (နိုင်) ၀၀၁၄၆၈ | ဒါရိုက်တာ | ၅ | အမှတ်(၅၇)၊ ရွှေဟသာလမ်း၊ လှိုင်မြို့နယ်၊ရန်ကုန်မြို့ ။ |

# ဆောင်ရွက်မည့်လုပ်ငန်းများအတွက်

# ရင်းနှီးမြှုပ်နှံမှုစာရင်းများအစီအစဉ်

Annex-2

# Golden Royal Myat Company Limited
## Soap Factory (Mandalay)

**Investment Plan**

Kyats

| Sr No. | Particulars | Existing Investment | New Investment | | | Total Investment | | |
|---|---|---|---|---|---|---|---|---|
| | | (Kyats) | (Kyats) | (US$) | Total Kyats | (Kyats) | (US$) | Total Kyats |
| 1 | Land & Building Lease | 494,800,000 | 122,400,000 | | 122,400,000 | 617,200,000 | | 617,200,000 |
| 2 | Building Cost | - | 500,000,000 | | 500,000,000 | 500,000,000 | | 500,000,000 |
| 3 | Renovation | - | 250,000,000 | - | 250,000,000 | 250,000,000 | | 250,000,000 |
| 4 | Plant & Machinery | - | | 400,000 | 500,000,000 | | 400,000 | 500,000,000 |
| 5 | Furnitures & Others | - | 25,000,000 | - | 25,000,000 | 25,000,000 | | 25,000,000 |
| 6 | Working Capital | 435,870,000 | 602,600,000 | - | 602,600,000 | 1,038,470,000 | | 1,038,470,000 |
| | **Total** | **930,670,000** | **1,500,000,000** | **400,000** | **2,000,000,000** | **2,430,670,000** | **400,000** | **2,930,670,000** |

**Note : Exchange Rate 1 US$ = 1250 Kyats**

Annex-3

# Golden Royal Myat Company Limited

## Soap Factory (Mandalay)

**Machinery , Equipment and Accessories List to be imported**

| Sr No. | Description | A/U | Qty | Unit Price (US$) | Amount (US$) | Amount Equivalent (Kyats) |
|---|---|---|---|---|---|---|
| | Machinery , Equipment and Accessories for Soap Finishing Line | | | | | |
| | Machine List | | | | | |
| 1 | Soap Mixer Machine and accessories | Lot | 1 | 35,000.00 | 35,000.00 | 43,750,000.00 |
| 2 | Soap Roller Machine/Roller Printing Machine and accessories | Lot | 1 | 30,000.00 | 30,000.00 | 37,500,000.00 |
| 3 | Soap Refiner and accessories | Lot | 1 | 30,000.00 | 30,000.00 | 37,500,000.00 |
| 4 | Soap Plodder Machine and accessories | Lot | 1 | 65,000.00 | 65,000.00 | 81,250,000.00 |
| 5 | Soap cutting Machine and accessories | Lot | 1 | 40,000.00 | 40,000.00 | 50,000,000.00 |
| 6 | Automatic Soap Stamping Machine and accessories | Lot | 1 | 60,000.00 | 60,000.00 | 75,000,000.00 |
| 7 | Soap Packing Machine and accessories | Lot | 1 | 140,000.00 | 140,000.00 | 175,000,000.00 |
| | Total | | | | 400,000.00 | 500,000,000.00 |

Note : Exchange Rate 1 US$ = 1250 Kyats

(ထ) **"အငှားချထားခြင်းခံရသူ"** သည် မူလလုပ်ငန်းအပြင် နိုင်ငံတော်မှ ခွင့်ပြုထားသော အခြားလုပ်ငန်းများအားလုပ်ကိုင်ဆောင်ရွက်လိုပါက"အငှားချထားသူ"၏ သဘောတူ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင် သည်။

(ဒ) **"အငှားချထားခြင်းခံရသူ"**မှ ဆောင်ရွက်မည့် လုပ်ငန်းအတွက် သက်ဆိုင်ရာဌာန ဆိုင်ရာများ၏ လုပ်ငန်း ဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများ ထားရှိပြီး **"အငှားချ ထားသူ"** ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(ဓ) အငှားချထားသည့်ပစ္စည်းရပ်များတွင်**"အငှားချထားသူ"**၏(နေ့စား၊လခစား)ဝန်ထမ်း များအနက်၎င်းတို့၏ဆန္ဒအလျောက်**"အငှားချထားခြင်းခံရသူ"**(ကုမ္ပဏီ)သို့ လိုက်ပါ မည့် ဝန်ထမ်းများကို **"အငှားချထားခြင်းခံရသူ"** (ကုမ္ပဏီ) သည် အလုပ်သမား အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် ပြင်ပဝန်ထမ်း စည်းမျဉ်းဥပဒေနှင့်အညီ ကုမ္ပဏီ၏ စီမံခန့်ခွဲမှု (ကုမ္ပဏီဝန်ထမ်းအဖြစ်) ဖြင့် လွှဲပြောင်းလက်ခံ ဆောင်ရွက်ရမည်။

(န) **"အငှားချထားခြင်းခံရသူ"** သည် လုပ်ငန်းများကို တိုးချဲ့ရာတွင် ပြည်တွင်း ၊ ပြည်ပ ရင်းနှီးမြှုပ်နှံမှုများ နှင့်အကျိုးတူဖက်စပ်လုပ်ကိုင်ရန်လိုအပ်ပါက **"အငှားချထားသူ"** နှင့်ညှိနှိုင်း၍ နိုင်ငံတော်သတ်မှတ်ထားသော လုပ်ထုံးလုပ်နည်းများနှင့် အညီ ဆောင်ရွက်နိုင်သည်။

(ပ) **"အငှားချထားခြင်းခံရသူ"**သည် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ သတ်မှတ်ချက်များကိုလိုက်နာဆောင်ရွက်ရမည်။

(ဖ) **"အငှားချထားခြင်းခံရသူ"** သည်ပတ်ဝန်းကျင်အနှောင့်အယှက် အန္တရာယ်ဖြစ်စေ မည့် အကြောင်းအချက်များကို ကြိုတင်ကာကွယ်တားဆီး၍ ဖြစ်ပွားပါက ပြီးဆုံး သည့်တိုင် အောင် တာဝန်ယူဖြေရှင်းဆောင်ရွက်ရမည်။

(ဗ) နိုင်ငံတော်မှ သတ်မှတ်ထားသော သက်ဆိုင်ရာဥပဒေများ၊ ဒေသဆိုင်ရာ လူမှုဘဝ ကိစ္စရပ် များနှင့်ပတ်သက်၍ အကြောင်းတစ်စုံတစ်ရာ ပေါ်ပေါက်ပါက **"အငှားချ ထားခြင်းခံရသူ"** မှ တာဝန်ယူ ဖြေရှင်းရမည်။

(ဘ) **"အငှားချထားခြင်းခံရသူ"**သည် မြန်မာနိုင်ငံတံဆိပ်ခေါင်းအက်ဥပဒေပုဒ်မ ၂၉(ဂ) အရ ကျသင့်သည် တံဆိပ်ခေါင်းခွန်ထမ်းဆောင်ရမည်။

(မ) ဝန်ထမ်းများအတွက် ပင်စင်ထည့်ဝင်ကြေးကို **"အငှားချထားခြင်းခံရသူ"** မှ ဆေးဝါး နှင့် စားသောက်ကုန်လုပ်ငန်း သို့ လစဉ် မပျက်မကွက်ပေးသွင်းရမည်။

၁၃။ **မူလစာချုပ်** ၏ အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ ခေါင်းစဉ်ရှိ အပိုဒ် ၁၂ အား ပယ်ဖျက်၍ အပိုဒ် ၁၆အဖြစ် အောက်ပါစာပိုဒ် ဖြင့် အစားထိုးပြင်ဆင်ရမည်-

**"အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၆။ **"အငှားချထားသူ"**၏တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာအောက်ပါအတိုင်းဖြစ်ပါ သည်-

(က) **"အငှားချထားခြင်းခံရသူ"** အား နောက်ဆက်တွဲများပါ အငှားချထားသည့်ပစ္စည်းများကို အသုံးပြုခွင့်ပေးရမည်။

( ခ ) စက်ရုံတွင်တပ်ဆင်ထားပြီးသော လျှပ်စစ်၊ ရေ၊ တယ်လီဖုန်း တို့ကို **"အငှားချထားခြင်းခံရသူ"** အား ဆက်လက်အသုံးပြုခွင့်ပြုရမည်။

( ဂ ) အငှားချထားသည့် စက်ရုံ၏ အခြေအနေများကို နည်းလမ်းတကျ လုပ်ပိုင်ခွင့် ပေးအပ်သော ကိုယ်စားလှယ်များ စေလွှတ်၍ စစ်ဆေးပိုင်ခွင့်ရှိသည်။

(ဃ) စက်ရုံအတွက်ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

( င ) "အငှားချထားခြင်းခံရသူ"မှ အသုံးပြုလိုခြင်း မရှိကြောင်းညှိနှိုင်း တင်ပြလာသည့် စက်ပစ္စည်းကိရိယာများကို စက်မှုဝန်ကြီးဌာန သို့တင်ပြ၍လိုအပ်သလို စီမံခန့်ခွဲခွင့် ရှိသည်။

( စ ) "အငှားချထားခြင်းခံရသူ "၏ လုပ်ငန်းနှင့် မကိုက်ညီကြောင်း ညှိနှိုင်းတင်ပြလာသည့် မူလအဆောက်အဦကို ရှင်းလင်းရန် စက်မှုဝန်ကြီးဌာန သို့တင်ပြ၍ စီမံဆောင်ရွက်ခွင့်ရှိသည်။

(ဆ) ဝန်ထမ်းများ ရာထူးတိုးမြှင့်ရေး ၊ ပြောင်းရွှေ့ရေးကိစ္စများကို "အငှားချထားခြင်းခံရသူ" နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

( ဇ ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့် ပတ်သက်သည့်ဌာနအလိုက် စာရွက်စာတမ်းများ၊စာရင်းများကိုစာရင်းစစ်အစစ်ဆေးခံနိုင်ရန်နှင့်အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် "အငှားချထားခြင်းခံရသူ" နှင့်ညှိနှိုင်း၍ စနစ်တကျ ထိန်းသိမ်းထားရှိရမည်။

( ဈ ) စက်ရုံရှိ(နေ့စား/လခစား)ဝန်ထမ်းများအနက်"အငှားချထားခြင်းခံရသူ"(ကုမ္ပဏီ) သို့လိုက်မည့် ဝန်ထမ်းများကိုအထူးပင်စင်ခံစားခွင့်ပြုကာ ကုမ္ပဏီဝန်ထမ်း အဖြစ် အပြီးအပြတ် လွှဲပြောင်းခွင့်ရှိသည်။

(ည) အငှားချထားသည့် စက်ရုံဧရိယာအတွင်း လုပ်ငန်းဆောင်ရွက်မှုနှင့်စပ်လျဉ်း၍ "အငှားချထားခြင်းခံရသူ"၏အခက်အခဲများကိုသက်ဆိုင်ရာဌာနများသို့"အငှားချထားခြင်း ခံရသူ"တို့နှင့် ညှိနှိုင်း၍ တတ်နိုင်သမျှ ကူညီဆောင်ရွက်ပေးရမည်။

( ဋ ) "အငှားချထားသူ"သည် နိုင်ငံတော်၏မူဝါဒနှင့်အညီ " ငှားရမ်းသည့်သဘောတူစာချုပ်" ကို ပြင်ဆင်ချုပ်ဆိုခွင့်ရှိသည်။

၁၄။ မူလစာချုပ် တွင် မပါဝင်သော ပတ်ဝန်းကျင် ထိန်းသိမ်းကာကွယ်ခြင်း ခေါင်းစဥ်ကို အပိုဒ် ၁၇ အဖြစ် အောက်ပါစာပိုဒ်အား ထပ်မံဖြည့်စွက်ရမည် -

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၇။ "အငှားချထားခြင်းခံရသူ"အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့်နေရာဒေသ၏ ပတ်ဝန်းကျင် နေရာများအား ကောင်းစွာ ကာကွယ်ထိန်းသိမ်း စောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု ၊ ရေထုနှင့် မြေထုများညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင် ဆိုင်ရာထိခိုက်ပျက်စီးဆုံးရှုံးခြင်းအားကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းများကိုဆောင်ရွက် ရမည် ။ ရေများသန့်စင်နိုင်သော စက်များ တပ်ဆင် ပေးခြင်း ၊ လေထုညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့်အညစ်အကြေးစွန့် အစိတ်အပိုင်းများကို လုံခြုံစွာထား ရှိပေးခြင်းဖြင့် အခြားသော ပတ်ဝန်းကျင်ဘေးအန္တရာယ် ကင်းရှင်းရေးဆိုင်ရာ လိုအပ် သော အကာအကွယ် အစီအစဥ်များ ဆောင်ရွက်ရမည် ။

၁၅။ မူလစာချုပ် တွင် မပါဝင်သော ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ ခေါင်းစဥ်ကို အပိုဒ် ၁၈ အဖြစ် အောက်ပါစာပိုဒ်အား ထပ်မံဖြည့်စွက်ရမည် -

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၁၈။ ဤဒုတိယအကြိမ် ပြင်ဆင်ချက် သဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များ အတိုင်းလုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတ မြန်မာ နိုင်ငံတော် အတွင်း သက်ဆိုင်ရာ အစိုးရဌာန၊ အာဏာပိုင် အဖွဲ့အစည်းများထံမှ ရယူရန် လိုအပ်သောအတည်ပြုချက်များ၊ခွင့်ပြုမိန့်များရရှိပြီးမှသာလုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

၁၆။ မူလစာချုပ် တွင် မပါဝင်သော အာမခံထားရှိခြင်း ခေါင်းစဥ်ကို အပိုဒ် ၁၉ အဖြစ် အောက်ပါ စာပိုဒ်အား ထပ်မံဖြည့်စွက်ရမည် -

**အာမခံထားရှိခြင်း**

၁၉။ အငှားချထားခြင်းခံရသူသည် တစ်နှစ်စာငှားရမ်းခ၏ ၁၀ % နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှုအာမခံ (Performance Bank Guarantee) အဖြစ် မြန်မာ့ စီးပွားရေးဘဏ် (နေပြည်တော်)တွင် အပ်နှံထားရှိ၍ထားရှိမှုမှတ်တမ်းကို ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်းတွင်သိမ်းဆည်းထားရှိရမည်။

၁၇။ **မူလစာချုပ်** တွင် မပါဝင်သော စာချုပ်ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း ခေါင်းစဉ်ကို အပိုဒ် ၂၀ အဖြစ် အောက်ပါ စာပိုဒ် အား ထပ်မံဖြည့်စွက်ရမည် -

**စာချုပ်ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၂၀။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရာ တွင် လုပ်ငန်း လိုအပ်ချက်အရ သို့မဟုတ် ဤစာချုပ်တွင် မပါရှိသည့်ကိစ္စရပ်များ ပေါ်ပေါက်လာလျှင် စာချုပ်ဝင် နှစ်ဦးနှစ်ဖက် ညှိနှိုင်းခွင့်ရှိစေရမည်။

၁၈။ **မူလစာချုပ်** ၏ စာချုပ်သက်တမ်းတိုးခြင်း ခေါင်းစဉ်ရှိ အပိုဒ် ၁၃ အား ပယ်ဖျက်၍ အပိုဒ် ၂၁ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**စာချုပ်သက်တမ်းတိုးခြင်း**

၂၁။ **"အငှားချထားခြင်းခံရသူ"** သည် ဤသဘောတူစာချုပ်သက်တမ်းကုန်ဆုံးပြီးနောက် အငှားချ ထားသည့် စက်ရုံကို ဆက်လက်ငှားရမ်းလိုပါက နောက်ထပ် ငှားရမ်းလိုသည့် ကာလနှင့် ငှားရမ်းခနှုန်း ထားများကို ဖော်ပြလျက် စာချုပ်သက်တမ်းတိုးမြှင့်ပေးပါရန် **"အငှားချထားသူ"** ထံ စာချုပ်သက်တမ်း မကုန်ဆုံးမီ(၃)လကြိုတင်၍စာဖြင့်တင်ပြရမည်။ ထပ်မံငှားရမ်းမည့် ကာလအတွက် နှစ်စဉ်ငှားရမ်းခ နှုန်းထားကို နှစ်ဦးနှစ်ဖက် ညှိနှိုင်း သတ်မှတ်ရမည်။ ထိုသို့သက်တမ်း တိုးမြှင့်ခြင်း၊ ငှားရမ်းခနှုန်းထား ပြင်ဆင်ခြင်းတို့သည်**စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာ ကော်မတီ အစည်းအဝေး** ၏အတည်ပြုချက်ရရှိ မှသာ အတည်ဖြစ်စေရမည်။

၁၉။ **မူလစာချုပ်** ၏ **အငြင်းပွားမှုဖြေရှင်းခြင်း** ခေါင်းစဉ်ရှိ အပိုဒ် ၁၄ အား အပိုဒ် ၂၂ အဖြစ် ပြောင်းလဲ ပြင်ဆင်ရမည်။

၂၀။ **မူလစာချုပ်** ၏ **သယံဇာတပစ္စည်းဆိုင်ရာကိစ္စ** ခေါင်းစဉ်ရှိ အပိုဒ် ၁၅ အား အပိုဒ် ၂၃ အဖြစ် ပြောင်းလဲပြင်ဆင်ရမည်။

၂၁။ **မူလစာချုပ်** ၏ **ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း** ခေါင်းစဉ်ရှိ အပိုဒ် ၁၆ အား ပယ်ဖျက်၍ အပိုဒ် ၂၄ အဖြစ် အောက်ပါစာပိုဒ် ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း**

၂၄။ **"အငှားချထားခြင်းခံရသူ"**သည်ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါငှားရမ်းခြင်းကာလ ကုန်ဆုံး သည့်အခါ ယင်းသို့ကုန်ဆုံးသည့်နေ့မှ (၃၀)ရက်အတွင်းအငှားချထားသည့် စက်ရုံ၊ မြေ၊ အဆောက်အဦနှင့်စက်ကိရိယာများ နှင့် အခြားပုံသေပိုင် ပစ္စည်းများကို **"အငှားချထားသူ** သို့အဖိုးစားနားမပါဘဲကောင်းမွန်သော အနေအထားဖြင့် ပြန်လည် လွှဲပြောင်းပေးအပ်ရမည်။ သို့ရာတွင် သတ်မှတ်ကာလအတွင်း လွှဲပြောင်းခြင်း ကိစ္စရပ်အား မပြီးစီးပါက ခိုင်လုံသော အကြောင်းပြချက်ဖော်ပြ၍ စာဖြင့်(၇)ရက် ကြိုတင် တင်ပြ တောင်းခံညှိနှိုင်းဆောင်ရွက်ရမည်။

၂၂။ မူလစာချုပ် ၏ မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ ခေါင်းစဉ်ရှိ အပိုဒ် ၁၇ နှင့် အပိုဒ် ၁၈ တို့အား ပယ်ဖျက်၍ အပိုဒ် ၂၅ နှင့် အပိုဒ် ၂၆ တို့ အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ**

၂၅။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ တရားဥပဒေစိုးမိုးရေးနှင့်ငြိမ်ဝပ်ပိပြားမှုပယ်ဖျက်ခြင်း၊စစ်ဖြစ်ခြင်း၊သပိတ်မှောက်ခြင်းစသည်တို့နှင့်စာချုပ်ဝင် တစ်ဖက်ဖက်ကလိုအပ်သောသတိ ဝိရိယနှင့်ဆောင်ရွက်စေကာမူမလွန်ဆန်မကျော်လွှားနိုင်သည့်အလားတူ ဖြစ်ရပ်များဖြစ်ပြီးယင်းဖြစ်ရပ်များကြောင့်ငှားရမ်းသုံးစွဲမှုကိုထိခိုက်ဆုံးရှုံးစေလျှင်"**အငှားချထားခြင်းခံရသူ**" သည် "**အငှားချထားသူ**" သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။

၂၆။ ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ်များပေါ်ပေါက်ပါကယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ ၁၄ (တစ်ဆယ့်လေး)ရက်အတွင်း "**အငှားချထားခြင်းခံရသူ**" သည် "**အငှားချထားသူ**" သို့ ချက်ချင်းစာဖြင့်ရေးသားအကြောင်းကြားရမည်။"**အငှားချထားသူ**"ကလက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး စက်ရုံမြေ၊ အဆောက်အဦများ၊ စက်ပစ္စည်းကိရိယာများ၊ရုံးသုံးစက်ကိရိယာနှင့်အခြားပစ္စည်းများ၊ မော်တော်ယာဥ်နှင့် အခြားယာဥ်များကိုငှားရမ်းအသုံးပြုခွင့်နှင့်တိုက်ရိုက်သက်ဆိုင်သောဖြတ်တောက်ကာလအပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

၂၃။ မူလစာချုပ် ၏ စာချုပ်အတည်ဖြစ်ခြင်း ခေါင်းစဉ်ရှိ အပိုဒ် ၁၉ အား ပယ်ဖျက်၍ အပိုဒ် ၂၇ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးရမည်-

**စာချုပ်အတည်ဖြစ်ခြင်း**

၂၇။ဤပြင်ဆင်ချက်သဘောတူစာချုပ်သည်"**အငှားချထားသူ**"နှင့်"**အငှားချထားခြင်းခံရသူ**" တို့လက်မှတ် ရေးထိုးပြီးသည့် နေ့မှစ၍ အတည်ဖြစ်သည်။

၂၄။ မူလစာချုပ် ၏ စာချုပ်ပြင်ဆင်ခြင်း ခေါင်းစဉ်ရှိ အပိုဒ် ၂၀ နှင့် အပိုဒ် ၂၁ တို့အား ပယ်ဖျက်၍ အပိုဒ် ၂၈ နှင့် အပိုဒ် ၂၉ တို့အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**စာချုပ်ပြင်ဆင်ခြင်း**

၂၈။ ဤပြင်ဆင်ချက်သဘောတူစာချုပ်ပါစည်းကမ်းများကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်း ပြုလုပ်လိုပါက "**အငှားချထားသူ**"နှင့် "**အငှားချထားခြင်းခံရသူ**" တို့၏ နှစ်ဦးနှစ်ဖက် တရားဝင်စာဖြင့် သဘောတူညီချက်နှင့် **စက်မှုဝန်ကြီးဌာန၊ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး** သို့တင်ပြ၍ အတည်ပြုချက်ရယူဆောင်ရွက်နိုင်သည်။

၂၉။ "အငှားချထားခြင်းခံရသူ" မှ စက်ရုံ ငှားရမ်းရာတွင် စီးပွားရေးအရ တွက်ချေကိုက်မှု မရှိခြင်း၊ အခြားသော အဆင်မပြေမှုများရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက် ပြန်လည်ညှိနှိုင်း ဆွေးနွေးရန် (၃)လကြိုတင် အကြောင်းကြားရမည်။ သို့ရာတွင် ယင်းဆွေးနွေးသည့် အချိန်ကာလမှစ၍ နောင်ထပ်မံငှားရမ်းသူ ရရှိသည့်အချိန်ကာလအထိ လက်ရှိငှားရမ်း ခွင့်ရရှိသူမှ စက်ရုံနှင့်ပတ်သက်သည့် စက်ရုံငှားရမ်းခ ၊ ဝန်ထမ်းလစာ နှင့် စရိတ်များ ၊ ပင်စင်ထည့်ဝင်ကြေးများ ၊ အခြားစရိတ်များအားလုံးကို ကျခံဆောင်ရွက် ပေးရမည်။

၂၅။ **မူလစာချုပ် ၏ စာချုပ်ရုပ်စဲခြင်း** ခေါင်းစဥ်ရှိ အပိုဒ် ၂၂ နှင့် အပိုဒ် ၂၃ တို့အား ပယ်ဖျက်၍ အပိုဒ် ၃၀ ၊ အပိုဒ် ၃၁ နှင့် အပိုဒ် ၃၂ တို့အဖြစ် အောက်ပါစာပိုဒ်များဖြင့် အစားထိုးပြင်ဆင်ရမည်-

**စာချုပ်ရုပ်စဲခြင်း**

၃၀။ စာချုပ်ရုပ်စဲခြင်းနှင့် ပတ်သက်၍ အောက်ပါ အကြောင်းအရပ်များ တစ်ခုခု ဖြစ်ပေါ်လာပါက စာချုပ်ကို ရုပ်စဲခွင့်ရှိသည်-

(က) မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့်ပျက်စီးဆုံးရှုံးသွား၍ "**အငှားချထားခြင်းခံရသူ**" အနေဖြင့် လုပ်ငန်း ဆက်လက်ဆောင်ရွက်ရန်မဖြစ်နိုင်တော့ခြင်း၊

(ခ) သဘောတူစာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်ကို "**အငှားချထားခြင်းခံရသူ**" မှ ခိုင်လုံသော ရည်ရွယ်ချက်ဖြင့် ဖောက်ဖျက်ကျူးလွန်ခြင်း ၊

(ဂ) နိုင်ငံတော်၏တည်ဆဲဥပဒေတစ်ရပ်ရပ်ကို"**အငှားချထားခြင်းခံရသူ**"မှဖောက်ဖျက် ကျူးလွန်ခြင်း၊

(ဃ) "**အငှားချထားခြင်းခံရသူ**" က လူမွဲအဖြစ် ခံယူသွားခြင်း၊

(င) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

၃၁။ အထက်ပါ ကိစ္စရပ်များအနက် ကိစ္စရပ်တစ်ခုခုကြောင့် စာချုပ် ရုပ်စဲလိုပါက **စက်မှု ဝန်ကြီး ဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး** သို့ တင်ပြခွင့်ပြုချက် ရရှိမှ သာ အကျိုးသက်ရောက်မှု ရှိစေရမည်။

၃၂။ စာချုပ်ရုပ်စဲခြင်းသည် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်မှ စာချုပ်ပါတာဝန်ရှိမှုများအား အကြေ အလည်ညှိနှိုင်း၍ပြီးပြတ် ရှင်းလင်းပြီးမှသာရုပ်စဲခြင်းပြီးမြောက်ရမည်။ ယင်းသို့ရှင်းလင်း ပြီးပါက စာချုပ်ပါ ငှားရမ်းထားသောပစ္စည်းများ အားလုံးကို "**အငှားချထားသူ**" ၏ ပိုင်ဆိုင်မှုသို့ လက်ဝယ် ပြန်လည် အပ်နှံရောက်ရှိစေရမည်။

၂၆။ **မူလစာချုပ် ၏ ပြန်လည်ဝင်ရောက်ပိုင်ခွင့်** ခေါင်းစဥ်ရှိ အပိုဒ် ၂၄ ကို ပယ်ဖျက်၍ အပိုဒ် ၃၃ အဖြစ် အောက်ပါစာပိုဒ်ဖြင့် အစားထိုးပြင်ဆင်ရမည်-

**ပြန်လည်ဝင်ရောက်ပိုင်ခွင့်**

၃၃။ "**အငှားချထားခြင်းခံရသူ**" သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် "**အငှားချထားသူ**"က ယင်းကဲ့သို့ ပျက်ကွက်မှု များကို ပြုပြင်ရန် (သို့) လိုက်နာရန် "**အငှားချထားခြင်းခံရသူ**" သို့ အကြောင်းကြားစာ

ပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက သက်ဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ **"အငှားချထားသူ"**သည် အငှားချထားသည့် စက်ရုံကို ပြန်လည်ဝင်ရောက်လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍လက်ရောက် ရယူခြင်းသည် **"အငှားချထားသူ"** က **"အငှားချထားခြင်းခံရသူ"** ထံမှ ရရန်ရှိသော ငှားရမ်းခ(သို့)ပျက်စီးဆုံးရှုံးမှုအတွက်လျော်ကြေးတောင်းဆိုခွင့်ကိုထိခိုက်ခြင်းမရှိစေရ။

**မူလစာချုပ်** အပိုဒ် ၂၅ အား အပိုဒ် ၃၄ အဖြစ်ပြောင်းလဲ ပြင်ဆင်ရမည်။

**မူလစာချုပ်** အပိုဒ် ၂၆ တို့အား ပယ်ဖျက်၍ အပိုဒ် ၃၅ ၊ ၃၆ ၊ ၃၇ ၊ ၃၈ ၊ ၃၉ တို့အဖြစ် စာပိုဒ်များအား ထပ်မံဖြည့်စွက်ရမည် -

၃၅။ ဤပြင်ဆင်ချက် သဘောတူစာချုပ်သည် ၂၀၁၄ ခုနှစ် ၊ ဧပြီလ(၁)ရက်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

၃၆။ ဤပြင်ဆင်ချက် သဘောတူစာချုပ်ပါ စည်းကမ်းချက်များမှအပ မူလစာချုပ်ပါ ကျန် စည်းကမ်းချက်များမှာ ပြောင်းလဲမှုမရှိဘဲ ဆက်လက်၍ အကျိုးသက်ရောက်မှု ရှိစေရမည်။

၃၇။ ဤပြင်ဆင်ချက် သဘောတူစာချုပ်တွင်ပါရှိသော နောက်ဆက်တွဲများသည် ဤစာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သည်။

၃၈။ ဤစာချုပ်သည် နိုင်ငံတော် မူဝါဒအရ ပြင်ဆင်ရန် လိုအပ်ပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ပြင်ဆင်ချုပ်ဆို နိုင်သည်။

၃၉။ ဤပြင်ဆင်ချက် သဘောတူစာချုပ်အား ၂၀၁၄ ခုနှစ်၊ ဇူလိုင် လ(၁၄)ရက်နေ့တွင် **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"** တို့ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည် -

| | |
|---|---|
| **ချထားသူ(ကိုယ်စား)** | **အငှားချထားခြင်းခံရသူ(ကိုယ်စား)** |
| နှင့်စားသောက်ကုန်လုပ်ငန်း) | (တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်) |
| (signature) | (signature) |
| ဂ်တာချုပ်ဝင်းမော် | ဒေါ်အေးအေးလွင် |
| ဝင်ညွှန်ကြားရေးမှူး | မန်းနေဂျင်းဒါရိုက်တာ |
| | ၁၂/ပဘတ (နိုင်) ၀၁၈၅၆၄ |

**အသိသက်သေများ**

ဦးထွန်းငြိမ်း
ညွှန်ကြားရေးမှူး
စီမံရေးဌာန

ဦးမျိုးမြင့်ဦး
ဒါရိုက်တာ
နိုင်ငံသားမှတ်ပုံတင်အမှတ်၊
၉/ကပတ(နိုင်)၁၄၉၇၇၀

ဒေါ်ခင်မြတ်မွန်
ညွှန်ကြားရေးမှူး
ဘဏ္ဍာရေးဌာန

ဦးစိုးသန်း
ညွှန်ကြားရေးမှူး
အုပ်ချုပ်ရေးဌာန

ဦးတိုးအောင်
အထွေထွေမန်နေဂျာ
ဆပ်ပြာစက်ရုံ(မန္တလေး)

အသေးစိတ် စာရင်း

| တံဆိပ်ခေါင်းအမျိုးအစား | နှုန်း | အရေအတွက် | သင့်ငွေ ကျပ် | သင့်ငွေ ပြား |
|---|---|---|---|---|
| 5000 | | 1200 | 6000000/- | |
| စုစုပေါင်းပေးသွင်းငွေ | | | | |

ပြည်ထောင်စုမြန်မာနိုင်ငံတော်
မန္တလေးမြို့တော်စည်ပင်သာယာရေးကော်မတီ
မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန
(ဦးပိုင်တစ်ခု၏ မြေရာဇဝင်)

နယ်အမည် ............ ရပ်ကွက်အမည် [illegible] ကွင်း/အကွက်အမှတ် ၃၅

| ဦးပိုင်အမှတ် | အခွန်စည်းကြပ်ခံရသူ/ပိုင်ရှင်/ဂရန်ရှင်/အငှားဂရန်ရှင်အမည် | ပိုင်ဆိုင်ခွင့် | မြေမျိုးနှင့်အတန်းအစား | ဧရိယာ | | အခွန်တော်သင့်ငွေ (ခိုင်ကြေးပါ) | မည်ကဲ့သို့ပြောင်းလဲသည့်ညွှန်ပြချက် | မှတ်ချက် |
|---|---|---|---|---|---|---|---|---|
| | | | | ဧက | ဒသမ | | | |
| ၁ | မြို့ပွား နှင့် ဆိုး အိမ် မှ မြိုးရေး ဦးစီးဌာန - မန္တလေး တိုင်း | B | B | ၁ | ၄၅၄၆ | - | မြေယာစီမံ ၁၁၂၈/ဘ (ပြောင်း) / ၉၇-၉၈ အရ ပြောင်း | |
| ၁ | သာပြာ တက်ကျို မန္တလေး | B | B | ၁ | ၄၅၄၆ | - | အမှတ် (၁) ဆက်မြို့နယ်ကြီးဌာန စာ ၄-၁၂-၂၀၀၀ နေ့စွဲပါ စာအမှတ်- ၄(၅)/၁-၈(၃-၁)/၂၀၀၀ (၇၀၁၁) နှင့် မြေယာစီမံ ၀၅၉၂/ဘ (ပြောင်း) / ၂၀၀၀-၂၀၀၁ အရ ပြောင်း | |

ရုံးတံဆိပ်

၁။ လျှောက်ထားသူအမည် - [illegible]
၂။ လျှောက်လွှာတင်သည့်နေ့စွဲ - ၂၄-၅-၁၁
၃။ လျှောက်လွှာအမှတ် - ၀၄၇၅
၄။ လျှောက်သူသို့လက်ခံပေးသည့်နေ့စွဲ-
၅။ ရေးကူးပေးသည့်အကြောင်းအရာ- လက်ဝယ်ထား
(ဖော်ပြသည့်အကြောင်းအရာအတွက်သာအသုံးပြုခွင့်ရှိသည်။)

ငွေလက်ခံ ( ၂၇-၅-၁၁ ) ရက်နေ့တွင်လွှဲချက်
ကရန ရေးကူးခ ပေးထည်း

၂၀၁၁ / ၁၂ ခုနှစ်၊ မြေပုံနှင့် မှတ်ပုံတင်စာရင်းတွင်ပါရှိသည့်အတိုင်း အမှန်လက်ခံရေးကူးကြောင်းသက်သေခံလက်မှတ်ရေးထိုးပါသည်။

ရေးကူးသူ

၈-၆-၂၀၁၁

ခရိုင်/မြို့နယ်ဦးစီးမှူး(ပ) (မြို့/မြေ)

တိုက်ဆိုင်စစ်ဆေးပြီးမှန်ကန်ပါသည်။

မြို့နယ်ဌာနခွဲ (မြို့/မြေ)စစ်ဆေးသူ

အတည်ပြုသည်။

၈-၆-၂၀၁၁

ဌာနစုမှူး (မြို့/မြေ) အတည်ပြုသူ

စက်မှုဝန်ကြီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း

နှင့်

ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်
( Golden Royal Myat Co., Ltd.)

တို့
ချုပ်ဆိုသော

ဆပ်ပြာစက်ရုံ(မန္တလေး)၏
မြေနှင့်ယင်းမြေပေါ်ရှိ အဆောက်အဦ နှင့် စက်ပစ္စည်းများအား
"နှစ်ရှည်ငှားရမ်းသည့် သဘောတူစာချုပ်"

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ လ (   ) ရက်

**စက်မှုဝန်ကြီးဌာန**

**မြန်မာ့ဆေးဝါးလုပ်ငန်း**

**နှင့်**

**ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်**

**( Golden Royal Myat Co., Ltd.)**

**တို့၏**

**ဆပ်ပြာစက်ရုံ(မန္တလေး)၏**

**မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦ နှင့် စက်ပစ္စည်းများအား**

**“နှစ်ရှည်ငှားရမ်းသည့်သဘောတူစာချုပ်”**

ဤငှားရမ်းခြင်းသဘောတူစာချုပ် (နောင်တွင်“**သဘောတူစာချုပ်** ”ဟု ခေါ်တွင်မည်) ကို နေပြည်တော်တွင်၂၀၁၆ခုနှစ်၊ လ( )ရက်နေ့၌ဒေါ်အေးအေးဝင်း၊ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော“**မြန်မာ့ဆေးဝါးလုပ်ငန်း**”၊ စက်မှုဝန်ကြီးဌာန (နောင်တွင် ‘**အငှားချထားသူ**’ ဟု ခေါ်တွင်စေပြီး ယင်းဖော်ပြချက်တွင် ၎င်းအားဆက်ခံသူများ ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) က တစ်ဖက်

**နှင့်**

အမှတ်(၁၆၃)၊၄၇လမ်း၊ဗိုလ်တထောင်မြို့နယ်၊ရန်ကုန်တိုင်းဒေသကြီးနေဒေါ်အေးအေးလွင် ( ၁၂ / ပဘတ (နိုင်) ၀၁၈၅၆၄ ) ၊ Managing Director ကိုယ်စားပြုသော“**ရွှေတော်ဝင်မြတ် ကုမ္ပဏီလီမိတက်**” အမှတ်(၄၀)၊ မြဝတီမင်းကြီးလမ်း၊ လှိုင်သာယာစက်မှုဇုံ(၄) ၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး (နောင်တွင် “ **အငှားချထားခြင်းခံရသူ** ”ဟု ခေါ်တွင်စေပြီး၊ ယင်းစကားရပ်တွင် ၎င်းတို့အားဆက်ခံသူများ၊ တရားဝင် ကိုယ်စားလှယ်များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်။) ကအခြားတစ်ဖက်တို့သည် -

(က) (၁၀-၁၀-၂၀၁၃)ရက်နေ့တွင် ကျင်းပပြုလုပ်သောစက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့် ဘဏ္ဍာရေးဆိုင်ရာကော်မတီ အစည်းအဝေးအမှတ်စဉ် (၁၅/၂၀၁၃-၂၀၁၄) နှင့် (၉-၁-၂၀၁၄)ရက်နေ့ တွင်ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့၏ အစည်းအဝေး အမှတ်စဉ် (၁/၂၀၁၄) တို့မှ ငှားရမ်းသက်တမ်း (၂၀)နှစ်ဖြင့် ငှားရမ်းခွင့်ပြုခဲ့ခြင်းတို့ကြောင့်တစ်ကြောင်း၊

( ခ ) "တော်ဝင်ဟိန်းကုမ္ပဏီလီမိတက်" မှ ကုမ္ပဏီအမည်အား "ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်( Golden Royal Myat Co., Ltd. )"အမည်သို့ ပြောင်းလဲဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခဲ့ခြင်းအပေါ် ၂၀၁၆ ခုနှစ် ၊ ဇန်နဝါရီလ ၂၅ ရက်နေ့တွင်ကျင်းပပြုလုပ်သော စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးအမှတ်စဉ် (၂၈/၂၀၁၅-၂၀၁၆)မှ သဘောတူခွင့်ပြုခဲ့ခြင်းကြောင့်တစ်ကြောင်း ၊

( ဂ ) ယခုအခါ ဆပ်ပြာစက်ရုံ(မန္တလေး)၏ ငှားရမ်းသက်တမ်းအား ကနဦးနှစ်(၅၀)နှင့် သက်တမ်းတိုးခြင်း(၁၀)နှစ်(၂)ကြိမ်အဖြစ်နှစ်ရှည်ငှားရမ်းဆောင်ရွက်ရေးမြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြဆောင်ရွက်ရန်အတွက် စက်မှုဝန်ကြီးဌာန၏ (၁၈-၁-၂၀၁၆ ) ရက်စွဲပါစာအမှတ် ၊ ၂၃ - စမ (၂) ၂၀၁၅-၂၀၁၆ ( ၃၆၅၄ ) အရ ဆောင်ရွက် ခြင်းဖြစ်ပါ သည်။

၂၀၁၂ ခုနှစ် ၊ ဖေဖော်ဝါရီလ ၂၈ ရက်နေ့တွင် စက်မှုဂန်ကြီးဌာန ၊ ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း နှင့် တော်ဝင်ဟိန်းကုမ္ပဏီလီမိတက် တို့ ချုပ်ဆိုခဲ့သော ဆပ်ပြာစက်ရုံ (မန္တလေး) အား **"ငှားရမ်းသည့်မူလသဘောတူစာချုပ်"**ပါ အချက်များအား ဤစာချုပ်ဖြင့် လွှမ်းမိုးပယ်ဖျက်လိုက်သည်။ ယခုစာချုပ်အတွက် ကျသင့်သည့်တံဆိပ်ခေါင်းခွန်တန်ဖိုးကို ယခင်ချုပ်ဆိုခဲ့သည့် စာချုပ်အတွက် ထမ်းဆောင်ခဲ့သော တံဆိပ်ခေါင်းခွန်တန်ဖိုးအားချန်လှပ်၍ ဆက်လက်ထမ်းဆောင်ရမည်။

**ရည်ရွယ်ချက်**

၁။ **"အငှားချထားသူ"**ပိုင်ဆိုင်သော မန္တလေးတိုင်းဒေသကြီး ၊အောင်မြေသာစံမြို့နယ် ၊အမရဌာနီရှမ်းဝိုင်းရပ်၊(၉x၁၀)လမ်းကြား၊(၇၇x၇၈)လမ်းကြားရှိ ဆပ်ပြာစက်ရုံ(မန္တလေး)ကို **"အငှားချ ထားခြင်းခံရသူ"** မှ ငှားရမ်းပြီး ဆပ်ပြာအမျိုးမျိုးထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချခြင်း လုပ်ငန်းနှင့် ယင်းနှင့်ဆက်စပ်သည့်လုပ်ငန်းများ ဆောင်ရွက်ရန် ရည်ရွယ်၍ ဤစက်ရုံငှားရမ်းသည့် သဘောတူ စာချုပ်ကို ချုပ်ဆိုခြင်းဖြစ်ပါသည်။

## အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

၂။ **"အငှားချထားသူ"**သည်နောက်ဆက်တွဲများတွင် အသေးစိတ် ဖော်ပြထားသော စက်ရုံ ၊ မြေ ၊ အဆောက်အဦများ ၊ စက်ပစ္စည်းကိရိယာများ ၊ ရုံးသုံးစက်ကိရိယာ နှင့် အခြားပုံသေပိုင် ပစ္စည်းများကို တရားဝင် ပိုင်ဆိုင်သူ ဖြစ်ပါသည်။**"အငှားချထားခြင်းခံရသူ"**သည် စာချုပ်ကို အကောင်အထည်ဖော် ဆောင်ရွက်ရန်ငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသူ ဖြစ်သည်။စာချုပ်တွင်လက်မှတ်ရေးထိုးမည့်သူများသည်ဤစာချုပ်တွင်လက်မှတ်ရေးထိုးရန်အခွင့်အာဏာရှိသူဖြစ်ကြောင်းကိုအသီးသီးအာမခံကြပါသည်။

## အငှားချထားမည့်ပစ္စည်းများ

၃။ **"အငှားချထားခြင်းခံရသူ"**သည် အောက်ဖော်ပြပါ **"အငှားချထားသူ"**ပိုင် စက်ရုံ ၊ မြေ ၊ အဆောက်အဦများ၊ စက်နှင့်စက်ပစ္စည်းများ၊ ဓါတ်ခွဲခန်းသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂပစ္စည်းများ၊ မော်တော်ယာဉ်များကို ငှားရမ်း၍ ဆပ်ပြာအမျိုးမျိုး ထုတ်လုပ်၊ ဖြန့်ဖြူး၊ ရောင်းချခြင်းလုပ်ငန်းများနှင့် ယင်းနှင့်ဆက်စပ်သည့် လုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါသည်-

| | | | |
|---|---|---|---|
| (က) | စက်ရုံအမည်နှင့်တည်နေရာ | - | ဆပ်ပြာစက်ရုံ(မန္တလေး)<br>မန္တလေးတိုင်းဒေသကြီး၊<br>အောင်မြေသာစံမြို့နယ်၊အမရဋ္ဌာနီ၊<br>ရှမ်းဝိုင်းရပ်၊(၉x၁၀)လမ်းကြား၊<br>(၇၇x၇၈)လမ်းကြား |
| (ခ) | မြေဧက | - | စက်ရုံမြေဧရိယာ ၅.၄၅၄၆ ဧက |
| (ဂ) | တည်နေရာပြမြေပုံ | - | နောက်ဆက်တွဲ(က) |
| (ဃ) | အဆောက်အဦများ | - | နောက်ဆက်တွဲ( ခ ) |
| (င) | စက်နှင့်စက်ပစ္စည်းများ | - | နောက်ဆက်တွဲ( ဂ ) |
| (စ) | ဓါတ်ခွဲခန်းသုံးပစ္စည်းများ | - | နောက်ဆက်တွဲ(ဃ) |
| (ဆ) | ရုံးသုံးပရိဘောဂပစ္စည်းများ | - | နောက်ဆက်တွဲ( င ) |
| (ဇ) | မော်တော်ယာဉ်များ | - | နောက်ဆက်တွဲ( စ ) |

**ငှားရမ်းမည့်အချိန်ကာလ**

၄။ ငှားရမ်းမည့်အချိန်ကာလ ကနဦးနှစ်(၅၀)မှာ ၂၀၁၂ ခုနှစ် ၊ မတ်လ(၁)ရက်နေ့ မှ ၂၀၆၂ ခုနှစ် ဖေဖော်ဝါရီလ(၂၈)ရက်နေ့အထိဖြစ်ပြီး တစ်ကြိမ်လျှင်(၁၀)နှစ်စီဖြင့်သက်တမ်းတိုး(၂)ကြိမ် ဆောင်ရွက်နိုင်သည်။ ယင်းသက်တမ်းတိုး ဆောင်ရွက်ခြင်းကို စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးသို့တင်ပြ၍ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့အတည်ပြုချက် တင်ပြဆောင်ရွက်ရမည် ဖြစ်သည်။

**စာချုပ်သက်တမ်း**

၅။ စာချုပ်သက်တမ်းကနဦးနှစ်(၅၀)မှာ၂၀၁၂ ခုနှစ် ၊ မတ်လ(၁)ရက်နေ့ မှ ၂၀၆၂ ခုနှစ် ဖေဖော်ဝါရီလ ( ၂၈) ရက်နေ့ အထိဖြစ်သည်။ ပထမအကြိမ်(၁၀)နှစ်သက်တမ်းတိုး နှင့် ဒုတိယအကြိမ် (၁၀)နှစ် သက်တမ်းတိုးကို စက်မှုဝန်ကြီးဌာန၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးသို့ တင်ပြ၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့အတည်ပြုချက် တင်ပြဆောင်ရွက် ရမည် ဖြစ်သည်။

**ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်းများ**

၆။ ပြင်ပဝန်ထမ်း စည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းအင်အားမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | လစာနှုန်း(ကျပ်) | ဦးရေ |
|---|---|---|
| (က) | ၃၄၀၀၀၀-၄၀၀၀-၃၆၀၀၀၀ | ၁ |
| (ခ) | ၃၀၀၀၀၀-၄၀၀၀-၃၂၀၀၀၀ | ၁ |
| (ဂ) | ၂၈၀၀၀၀-၄၀၀၀-၃၀၀၀၀၀ | ၂ |
| (ဃ) | ၁၉၅၀၀၀-၂၀၀၀-၂၀၅၀၀၀ | ၁၈ |
| (င) | ၁၈၀၀၀၀-၂၀၀၀-၁၉၀၀၀၀ | ၃၉ |
| (စ) | ၁၆၅၀၀၀- ၂၀၀၀-၁၇၅၀၀၀ | ၂၂ |
| (ဆ) | ၁၅၀၀၀၀- ၂၀၀၀-၁၆၀၀၀၀ | ၁ |
| (ဇ) | ၁၃၅၀၀၀- ၂၀၀၀-၁၄၅၀၀၀ | ၁ |
| | **စုစုပေါင်း** | **၈၅** |

(နောက်ဆက်တွဲ "ဆ" )

**ဝန်ထမ်းရေးရာကိစ္စရပ်များ**

၇။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်းများ နှင့် ပတ်သက်၍ **“အငှားချ ထားခြင်းခံရသူ”**မှ အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည် -

(က) စက်ရုံရှိ ပြင်ပဝန်ထမ်း စည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းများ၏ ဝန်ထမ်းလစာများကို နိုင်ငံတော်က သတ်မှတ်ထားသည့် လ၏နောက်ဆုံးရက် (သို့မဟုတ်) ပိတ်ရက်ဖြစ်ပါက ပိတ်ရက် မတိုင်မီရက်တွင် လစာထုတ်ပေးရမည်။

(ခ ) အငှားချထားခြင်းခံရသူသည် လက်ရှိတာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအား ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဝန်ထမ်းအဖြစ် လွှဲပြောင်း ရယူပြီး ဆက်လက်တာဝန်ပေးအပ်ရမည်။

( ဂ) စက်ရုံရှိဝန်ထမ်းများအနေဖြင့်ကုမ္ပဏီသို့ နှစ်ရှည်ငှားရမ်းပြီးသည့်နောက် ငှားရမ်း ကုမ္ပဏီ တွင် နိုင်ငံ့ဝန်ထမ်းအနေဖြင့် ဆက်လက်တာဝန် ထမ်းဆောင်ခဲ့ပါက ယင်း ဝန်ထမ်းများသည် နိုင်ငံတော်မှသတ်မှတ်ထားသည့် စက်မှုဇုန် နှင့် စက်မှုဇုန် ပြင်ပရှိ စက်ရုံ၊ အလုပ်ရုံ နှင့် အလုပ်သမားဥပဒေများကို လိုက်နာရမည်ဖြစ်ပြီး ငှားရမ်း ကုမ္ပဏီ အနေဖြင့်လည်း အထက်ဖော်ပြပါ အလုပ်သမားဥပဒေများ ၊ လူမှုဖူလုံရေး ဥပဒေများ နှင့်အညီ အကျိုးခံစားခွင့်ရရှိစေရေး အပြည့်အဝ ဆောင်ရွက်ပေးရမည်။

(ဃ)လွှဲပြောင်းယူမည့် ဝန်ထမ်းများ၏ လစာ ၊ နှစ်တိုး ၊ စရိတ် ၊ ထောက်ပံ့ကြေးများအား နိုင်ငံတော်မှ ချမှတ်ထားသော နှုန်းထားများအတိုင်း **“ အငှားချထားခြင်းခံရသူ ”** မှ ဆက်လက်ပေးဆောင်ရမည်။ဝန်ထမ်းများ၏အကျိုးငှာသက်သာချောင်ချိရေးကိစ္စများ အခြားသောစရိတ်များနှင့် ဆုကြေးများအား **“အငှားချထားခြင်းခံရသူ”**က သင့်လျော် သလို ပေးနိုင်သည်။

(င )စက်ရုံ လွှဲပြောင်းသည့်အခါပါရှိသော ဝန်ထမ်းများအနက် ရာထူးမှ နုတ်ထွက်လိုခြင်း ၊ နှစ်ပြည့်(သို့မဟုတ်)သက်ပြည့် အငြိမ်းစားယူခြင်းများရှိပါက **“အငှားချထားသူ”**ထံ တင်ပြ ဆောင်ရွက်ရမည်။

(စ ) ဝန်ထမ်းများအလုပ်ခွင်တွင် မတော်တဆ ထိခိုက်မှုဖြစ်ပွားပါက ဥပဒေအရ လိုအပ် သည်များကို **“အငှားချထားခြင်းခံရသူ”** မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ဆ)ဂန်ထမ်းအိမ်ယာတွင် လက်ရှိနေထိုင်လျက်ရှိသော ဂန်ထမ်းများအား စက်ရုံတွင် တာဝန် ထမ်းဆောင်နေစဉ် ကာလအတွင်း ဆက်လက်နေထိုင်ခွင့် ပြုရမည်။ သဘာဝဘေးအန္တရာယ်ကြောင့် ဖြစ်ပေါ်လာသောပျက်စီးမှုများကို **"အငှားချထားခြင်းခံရသူ"** က တာဝန် ယူဆောင်ရွက်ရမည်။

(ဇ)ဝန်ထမ်းရေးရာ ကိစ္စရပ်များနှင့် ပတ်သက်၍ ဝန်ထမ်းများ နစ်နာမှုမရှိစေရေး အတွက် နှစ်ဦးနှစ်ဖက်မှ ညှိနှိုင်းဆောင်ရွက်ရမည်။

(ဈ)စက်ရုံရှိပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့် ဂန်ထမ်းများသည် လုပ်ငန်း ခွင်ဆိုင်ရာ သတ်မှတ်ထားသည့် အလုပ်သမား ဥပဒေများအတွက် လိုက်နာမှု မရှိပါကအရေးယူအပြစ်ပေးခြင်းတို့ကိုလည်း နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆောင်ရွက် ရမည်။

(ည) စက်ရုံဝန်ထမ်းများအားအငှားချထားသည့်စက်ရုံနှင့် ပက်သတ်သည့်လုပ်ငန်း တာဝန်ကို သာပေးအပ်ရမည်။

**ငှားရမ်းခနှုန်းထားများ**

၈။ ငှားရမ်းခနှုန်းထားမှာ အပိုဒ်(၃)ပါစက်ရုံ ၊ မြေ ၊ အဆောက်အဦများ၊ စက်နှင့်စက်ပစ္စည်းများ၊ ဓါတ်ခွဲခန်းသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂပစ္စည်းများ၊ မော်တော်ယာဉ်များအပါအဝင် စက်ရုံ၏တစ်နှစ်ငှားရမ်းခမှာ ကျပ်၁၂၂.၄၀၀သန်း (ကျပ်သန်းတစ်ရာနှစ်ဆယ့်နှစ်သန်း လေးသိန်း တိတိ ) ဖြစ်ပါသည်။

၉။ နောင်လာမည့်နှစ်များတွင် ငှားရမ်းခကို (၂)နှစ်(၁)ကြိမ် ပြန်လည်သုံးသပ်၍ နောက်ဆုံး ငှားရမ်း ခ ၏ (၂%မှ ၅%) အတွင်း မပိုမလျော့နည်းစေရန် နှစ်ဖက်ညှိနှိုင်း ဆောင်ရွက်ရမည်။

၁၀။ နှစ်ဖက်သဘောတူညီချက်ဖြင့် ငှားရမ်းခပြင်ဆင်သတ်မှတ်ခြင်းကို **စက်မှုဝန်ကြီးဌာန ၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး**သို့ တင်ပြအတည်ပြုချက်ရယူ ဆောင်ရွက်ရမည်ဖြစ်သည်။

**ငှားရမ်းခပေးသွင်းခြင်း**

၁၁။ ယခုစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ (၃)လအတွက် ငှားရမ်းခကျသင့်ငွေကို (၃)လ လျှင်တစ်ကြိမ် ပထမလ၏(၁၅)ရက်အတွင်း ပေးသွင်းရမည်။

**နောက်ကျကြေးပေးသွင်းခြင်း**

၁၂။ **“အငှားချထားခြင်းခံရသူ”**သည် ယခုစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ ပထမလ၏ (၁၅)ရက်အတွင်း ပေးသွင်းရမည့်(၃)လအတွက် ငှားရမ်းခအားပေးသွင်းရန် ပျက်ကွက်ပါက နောက်ကျကြေးအဖြစ် တစ်လနောက်ကျတိုင်း (၃)လအတွက် ပေးသွင်းရမည့်ငွေ၏ (၀.၅%) (သုညဒသမငါးရာခိုင်နှုန်း)ကို ဒဏ်ကြေးအဖြစ်သတ်မှတ်၍ နောက်ကျသည့်ရက်အတိုင်း တွက်ချက်ပေး ဆောင်ရမည်။

**အငှားချထားခြင်းခံရသူ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၃။ **“အငှားချထားခြင်းခံရသူ”**၏ တာဝန်နှင့် လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) စက်ရုံ၊မြေ ၊ အဆောက်အဦများ၊ စက်နှင့်စက်ပစ္စည်း များ၊ ဓါတ်ခွဲခန်းသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂပစ္စည်းများ၊ မော်တော်ယာဉ်များနှင့်ပတ်သက်၍ နောက်ဆက်တွဲပါအတိုင်း အသုံးပြုနိုင်သည်။

(ခ )အကယ်၍ အသုံးပြုလိုခြင်းမရှိသော စက်နှင့်စက်ပစ္စည်း များ၊ ဓါတ်ခွဲခန်းသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂပစ္စည်းများ၊ မော်တော်ယာဉ်များရှိပါက **“အငှားချထားသူ”** သို့ ညှိနှိုင်း၍ စနစ်တကျလွှဲပြောင်းပေးနိုင်သည်။

(ဂ ) **“အငှားချထားခြင်းခံရသူ”**၏ လုပ်ငန်းနှင့်မကိုက်ညီသော မူလအဆောက်အဦကိုပြုပြင်ရန်(သို့) ဖြိုဖျက်ရန်အလို့ငှာ **“အငှားချထားသူ”**၏ သဘောတူခွင့်ပြုချက်ရရှိမှသာ ဆောင်ရွက်နိုင်သည်။

(ဃ) **“အငှားချထားခြင်းခံရသူ”**သည် လုပ်ငန်းတိုးချဲ့ခြင်း၊ ပြင်ဆင်ခြင်း၊ မွမ်းမံခြင်း၊ အဆောက်အဦ ဆောက်လုပ်ခြင်းများကို **“အငှားချထားသူ”**၏ စာဖြင့်ရေးသားထားသည့် သဘောတူခွင့်ပြုချက်များ ရရှိမှသာ ဆောင်ရွက်နိုင် သည်။

(င ) **“အငှားချထားခြင်းခံရသူ”**သည် ငှားရမ်းချိန်ကပါရှိသော အဆောက်အဦများမှအပ မြေလွတ်များတွင် စီးပွားရေးဆိုင်ရာအဆောက်အဦများ ထပ်မံဆောက်လုပ်ဆောင်ရွက်မည်ဆိုပါက ငှားရမ်းခတိုးမြှင့် ပေးဆောင်ရမည်။

(စ) စက်ရုံရှိ စာချုပ်ပါငှားရမ်းသည့် စက်ပစ္စည်း ၊ အဆောက်အဦများ နှင့် ပတ်သက်၍ ပြုပြင် ထိန်းသိမ်းမှုများကို **"အငှားချထားခြင်းခံရသူ"** မှ တာဝန်ယူ ဆောင်ရွက်မည်။

(ဆ) **"အငှားချထားခြင်းခံရသူ"** သည် ငှားရမ်းခငွေများကို ဤသဘောတူစာချုပ်ပါ စည်းကမ်း ချက်နှင့်အညီ သတ်မှတ်ထားသည့်အချိန်အတွင်း **"အငှားချထားသူ"**ထံ မှန်မှန်ကန်ကန် ပေးသွင်းရမည်။

(ဇ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံ နှင့် ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ ၊ စာရင်းများကို စာရင်းစစ် အစစ်ဆေးခံနိုင်ရန်နှင့် အခြား လိုအပ်သည်များ ဆောင်ရွက်နိုင်ရန် စက်ရုံနောက်ချန်အဖွဲ့မှ စနစ်တကျထိန်းသိမ်း ဆောင်ရွက်နိုင်ရန် စီစဉ်ပေးရမည်။

(ဈ) အငှားချထားသည့် ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိဝိရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်း ထားရမည်။ လျှပ်စစ် ဓါတ်အားသုံးစွဲမှုကို တည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီ သုံးစွဲပြီးမီးဘေးကာကွယ်ရေး အစီအမံများ လုံလောက်စွာ ထားရှိရမည်။

(ည) အငှားချထားသည့် ပစ္စည်းများကို တစ်ဆင့်ငှားရမ်းခြင်း ၊ ပေါင်နှံခြင်း ၊ ရောင်းချခြင်း ၊ သို့မဟုတ် တနည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း စသည်တို့ လုံးဝ မပြုလုပ်ရ။

(ဋ) **"အငှားချထားခြင်းခံရသူ"**သည် အငှားချထားသည့် ကာလအတွင်း **"အငှားချထားသူ"** မှလည်းကောင်း ၊ **"အငှားချထားသူ"**က နည်းလမ်းတကျ လုပ်ပိုင်ခွင့် ပေးထားသော ကိုယ်စားလှယ်များကို လည်းကောင်း လိုအပ်ပါကဝင် ရောက်လေ့လာ ခြင်း ၊ စစ်ဆေးခြင်းများ ဆောင်ရွက်ခြင်းရှိပါက ခွင့်ပြုရမည်။

(ဌ) အငှားချထားသည့် ပစ္စည်းများနှင့်ပတ်သက်၍ မြေခွန်မှအပ သက်ဆိုင်သည့် အခွန် အခ အမျိုးမျိုးကို ကျခံပေးဆောင်ရမည်။

(ဍ) အငှားချထားသည့် ပစ္စည်းများနှင့်စပ်လျဉ်း၍ အလုံးစုံသောအာမခံကို မြန်မာ့အာမခံ လုပ်ငန်းဥပဒေပါ ပြဋ္ဌာန်းချက်နှင့်အညီ မပျက်မကွက် ထားရှိဆောင်ရွက်ရမည်။

(ဎ) ဤသဘောတူစာချုပ် သက်တမ်းကုန်သည့်အခါ အငှားချထားသည့် စက်ရုံကို မူလ ငှားရမ်းစဉ်က အခြေအနေထက်မလျော့ဘဲ ထိန်းသိမ်းထားရမည်။ သို့ရာတွင် အကျိုး အကြောင်းဆီလျော်မှုရှိသော ပျက်စီးမှုများအတွက် ပြောင်းလဲမှုများကို ခွင့်ပြုလက်ခံနိုင် သည်။

(ဏ) အငှားချထားသည့် စက်ရုံတွင်တပ်ဆင်မှုများ ၊ ပုံစံပြောင်းလဲမှုနှင့် တိုးချဲ့မှုများ အားလုံး သည် ငှားရမ်းခြင်းစာချုပ် သက်တမ်းကုန်ဆုံးသည့်အချိန် / စာချုပ်ရပ်စဲသည့်အချိန် တွင် အခကြေးငွေပေးရန် မလိုဘဲ **"အငှားချထားသူ"**ပိုင်ပစ္စည်းများ အလိုအလျောက်ဖြစ်လာရမည်။အကယ်၍မိမိတပ်ဆင်ထားသောပစ္စည်းအား အငှားချထားသည့် အဆောက်အဦ လွှဲပြောင်းချိန်တွင် ပြန်လည်ဖြုတ်ယူသွား လိုပါက ယင်းပစ္စည်းများအား တပ်ဆင် ခြင်းမပြုမီကတည်းက နှစ်ဖက်ညှိနှိုင်း အတည်ပြုချက် ရယူထားရမည်။သို့ရာတွင် လေအေးပေးစက်များ ၊လျှပ်စစ်ထုတ်စက်များ နှင့်အခြားရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများကိုမူ ထားခဲ့ရန်မလိုဘဲ ဖြုတ်ယူသွားနိုင်သည်။

(တ) စက်ရုံမှထုတ်ကုန်များအား ပြင်ပဈေးကွက်တွင် မိမိကြိုက်နှစ်သက်သည့် ဈေးနှုန်းဖြင့် လွတ်လပ်စွာ ရောင်းချခွင့် ၊ သိုလှောင်ခွင့် ၊ သယ်ယူခွင့်ရှိသည်။

(ထ) **"အငှားချထားခြင်းခံရသူ"**သည် အငှားချထားသည့်စက်ရုံတွင် ခွင့်ပြုထားသည့် လုပ်ငန်းမှအပ တရားဥပဒေနှင့် မညီညွတ်သော လုပ်ငန်းများကို လုပ်ကိုင် ဆောင်ရွက်ခြင်းမပြုရ။

(ဒ) **"အငှားချထားခြင်းခံရသူ"**သည် မူလလုပ်ငန်းအပြင် နိုင်ငံတော်မှ ခွင့်ပြုထားသော အခြား လုပ်ငန်းများအား လုပ်ကိုင်ဆောင်ရွက်လိုပါက **"အငှားချထားသူ"**၏ သဘောတူခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်နိုင် သည်။

(ဓ) **"အငှားချထားခြင်းခံရသူ"**မှ ဆောင်ရွက်မည့် စာချုပ်ပါလုပ်ငန်းများအတွက် သက်ဆိုင်ရာ ဌာနဆိုင်ရာများ၏လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့် အထောက်အထားများ ထားရှိပြီး **"အငှား ချထားသူ"**ထံ မိတ္တူတစ်စုံ အပ်နှံထားရမည်။

(န) **"အငှားချထားသူ"**၏ (နေ့စား၊လခစား) ဝန်ထမ်းများအနက် ၎င်းတို့၏ ဆန္ဒအလျောက် **"အငှားချထားခြင်းခံရသူ"** (ကုမ္ပဏီ)သို့လိုက်ပါမည့် ဝန်ထမ်းများကို **"အငှားချထားခြင်းခံရသူ"**(ကုမ္ပဏီ)သည်အလုပ်သမားအလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် ပြင်ပဝန်ထမ်းစည်းမျဉ်းဥပဒေနှင့်အညီ ကုမ္ပဏီ၏ စီမံခန့်ခွဲမှု(ကုမ္ပဏီ ဝန်ထမ်းအဖြစ်)ဖြင့် လွှဲပြောင်းလက်ခံ ဆောင်ရွက်ရမည်။

(ပ) **"အငှားချထားခြင်းခံရသူ"**သည် လုပ်ငန်းများကို တိုးချဲ့ရာတွင် ပြည်တွင်း ၊ ပြည်ပ ရင်းနှီးမြှုပ်နှံမှုများနှင့် အကျိုးတူ ပူးပေါင်းဆောင်ရွက်မည်ဆိုပါက မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေများနှင့်အညီ လုပ်ကိုင် ဆောင်ရွက် ရမည်။

(ဖ) အငှားချထားသည့် အဆောက်အဦများအတွင်း ပျက်စီးစေတတ်သည့် ဓါတုဗေဒ ပစ္စည်း များ၊မီးလောင်လွယ်စေတတ်သော ပစ္စည်းများအားသိုလှောင်ခြင်းမပြုရ။

(ဗ) **"အငှားချထားခြင်းခံရသူ"** သည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ သတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ရမည်။

(ဘ) **"အငှားချထားခြင်းခံရသူ"**သည် ပတ်ဝန်းကျင် အနှောင့်အယှက် အန္တရာယ် ဖြစ်စေ မည့် အကြောင်းအချက်များကို ကြိုတင် ကာကွယ်တားဆီး၍ ဖြစ်ပွားပါက ပြီးဆုံးသည့် တိုင် အောင် တာဝန်ယူ ဖြေရှင်းဆောင်ရွက်ရမည်။

(မ) နိုင်ငံတော်မှသတ်မှတ်ထားသော သက်ဆိုင်ရာဥပဒေများ ၊ ဒေသဆိုင်ရာ လူမှုဘဝ ကိစ္စရပ်များနှင့်ပတ်သက်၍ အကြောင်းတစ်စုံတစ်ရာပေါ်ပေါက်ပါက **"အငှားချထား ခြင်းခံရသူ"** မှ တာဝန်ယူ ဖြေရှင်းရမည်။

(ယ)ဝန်ထမ်းများအတွက် ပင်စင်ထည့်ဝင်ကြေးကို **"အငှားချထားခြင်းခံရသူ"** မှ ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်းသို့ လစဉ်မပျက်မကွက်ပေးသွင်းရမည်။

(ရ) စာချုပ်ချုပ်ဆိုပြီး စာချုပ်မိတ္တူမှန်အား **"အငှားချထားခြင်း ခံရသူ"**မှ ထိန်းသိမ်းထား ရမည်။

**"အငှားချထားသူ"၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ**

၁၄။ **"အငှားချထားသူ"**၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များမှာ အောက်ပါအတိုင်းဖြစ်ပါ သည်-

(က) **"အငှားချထားခြင်းခံရသူ"**အား နောက်ဆက်တွဲများပါ အငှားချထားသည့်ပစ္စည်း များကို အသုံးပြုခွင့်ပေးရမည်။

(ခ) စက်ရုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ် ၊ ရေ ၊ တယ်လီဖုန်း တို့ကို **"အငှားချထား ခြင်းခံရသူ"** အား ဆက်လက်အသုံးပြုခွင့်ပြုရမည်။

(ဂ) အငှားချထားသည့် စက်ရုံ၏ အခြေအနေများကို နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ်သော **"အငှားချထားသူ"**၏ ကိုယ်စားလှယ်များအား အခါအားလျော်စွာ စေလွှတ်၍ စစ်ဆေးရမည်။

(ဃ) စက်ရုံအတွက်ကျသင့်သည့် မြေခွန်ကို ပေးဆောင်ရမည်။

(င) **"အငှားချထားခြင်းခံရသူ"**မှ အသုံးပြုလိုခြင်း မရှိကြောင်းညှိနှိုင်း တင်ပြလာသည့် စက်ပစ္စည်းကိရိယာများကို စက်မှုဝန်ကြီးဌာနသို့တင်ပြ၍ လိုအပ်သလို စီမံခန့်ခွဲခွင့်ရှိသည်။

(စ) **"အငှားချထားခြင်းခံရသူ"**၏ လုပ်ငန်းနှင့် မကိုက်ညီကြောင်း ညှိနှိုင်းတင်ပြလာသည့် မူလအဆောက်အဦကို ရှင်းလင်းရန် စက်မှုဝန်ကြီးဌာနသို့တင်ပြ၍ စီမံဆောင်ရွက်ခွင့်ရှိ သည်။

(ဆ) ဝန်ထမ်းများ ရာထူးတိုးမြှင့်ရေး ၊ ပြောင်းရွှေ့ရေးကိစ္စများကို **"အငှားချထားခြင်းခံရသူ"** နှင့် ညှိနှိုင်းဆောင်ရွက်ရမည်။

(ဇ) စက်ရုံအား စတင်ငှားရမ်းသည့်အချိန်ရှိ စက်ရုံနှင့် ပတ်သက်သည့် ဌာနအလိုက် စာရွက်စာတမ်းများ၊ စာရင်းများကို စာရင်းစစ်အစစ်ဆေးခံနိုင်ရန်နှင့် အခြားလိုအပ်သည်များ ဆောင်ရွက်နိုင်ရန် **"အငှားချထားခြင်းခံရသူ"** နှင့်ညှိနှိုင်း၍ စနစ်တကျ ထိန်းသိမ်းထား ရှိရမည်။

(ဈ )စက်ရုံရှိ(နေ့စား/လစား) ဝန်ထမ်းများအနက် **"အငှားချထားခြင်းခံရသူ"** (ကုမ္ပဏီ) သို့ ရွှေ့ပြောင်း တာဝန်ထမ်းဆောင်သည့် ဝန်ထမ်းများကို အထူးပင်စင် ခံစားခွင့်ပြုကာ ကုမ္ပဏီဝန်ထမ်းအဖြစ် အပြီးအပြတ် လွှဲပြောင်းခွင့်ရှိသည်။

(ည) အငှားချထားသည့် စက်ရုံဧရိယာအတွင်း **"အငှားချထားခြင်းခံရသူ"**၏ လုပ်ငန်းဆောင်ရွက်မှုနှင့် စပ်လျဉ်း၍ **"အငှားချထားခြင်းခံရသူ"** ၏အခက်အခဲများကို သက်ဆိုင်ရာဌာနများသို့ **"အငှားချထားခြင်းခံရသူ"**တို့နှင့် ညှိနှိုင်း၍ တတ်နိုင်သမျှ ကူညီဆောင်ရွက်ပေးရမည်။

**ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၁၅။ "အငှားချထားခြင်းခံရသူ"သည် ဆောက်လုပ်ထားသော အဆောက်အဦများနှင့် လုပ်ငန်းစဉ်စွန့်ပစ်ပစ္စည်းများကြောင့် ၎င်းတို့၏ပတ်ဝန်းကျင်တစ်ဝိုက်တွင် ဘေးအန္တရာယ်ကျရောက်မှုနှင့် ညစ်ညမ်းမှုတို့မှ ကာကွယ်ရန် အတွက်လိုအပ်သော ကြိုတင်ပြင်ဆင်မှုများကို ပြုလုပ်ရမည် ။ ထို့ပြင် လေထု၊ ရေထုနှင့် မြေထုများညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက် ပျက်စီးဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်း လုပ်ငန်းများဆောင်ရွက်ရမည်။ ရေများသန့်စင်နိုင်သောစက်များ တပ်ဆင်ပေးခြင်း၊လေထုညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့် အစီတ်အပိုင်းများကို လုံခြုံစွာထားရှိပေးခြင်းဖြင့် အခြားသော ပတ်ဝန်းကျင်ဘေးအန္တရာယ် ကင်းရှင်းရေးဆိုင်ရာ လိုအပ်သောအကာအကွယ်အစီအစဉ်များ ဆောင်ရွက်ရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်မှုကြောင့် ပေါ်ပေါက်လာမည့် မည်သည့်လျော်ကြေးတောင်းဆိုမှုမျိုးမဆို **"အငှားချထားသူ"** အပေါ် တွင် တာဝန်မရှိစေရ။

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၁၆။ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များ အတိုင်းလုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်ရာတွင်ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းသက်ဆိုင်ရာအစိုးရဌာန၊အာဏာပိုင်အဖွဲ့အစည်းများထံမှရယူရန် လိုအပ်သောအတည်ပြုချက်များ၊ ခွင့်ပြုမိန့်များရရှိပြီးမှသာ လုပ်ငန်းအကောင် အထည်ဖော် ဆောင်ရွက်ရန် သတ်မှတ်ပါသည်။

**အာမခံထားရှိခြင်း**

၁၇။ **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်လက်မှတ်ရေးထိုးပြီးနောက် ရက်(၃၀) အတွင်း တစ်နှစ်စာ ငှားရမ်းခ၏ ၁၀ % နှင့်ညီမျှသော တန်ဖိုးအား လုပ်ငန်းဆောင်ရွက်မှု အာမခံစပေါ်ငွေ (Performance Bank Guarantee) အဖြစ် ဆေး၀ါးနှင့် စားသောက်ကုန်လုပ်ငန်း၊ငွေထုတ်စာရင်း SEE Account သို့ ပေးသွင်းထားရှိရမည်။စာချုပ်သက်တမ်းပြီးဆုံး၍ **"အငှားချထားသူ"**ထံ စက်ရုံအား ပြန်လည်အပ်နှံပြီးပါက ယင်းအာမခံစပေါ်ငွေကို **"အငှားချထားခြင်းခံရသူ"** သို့ ပြန်လည်ထုတ်ပေးမည် ဖြစ်သည်။

**စာချုပ်ပြန်လည်စေ့စပ်ညှိနှိုင်းခြင်း**

၁၈။ စာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ရာတွင် လုပ်ငန်း လိုအပ်ချက်အရ သို့မဟုတ် ဤစာချုပ်တွင် မပါရှိသည့်ကိစ္စရပ်များ ပေါ်ပေါက်လာလျှင် စာချုပ်ဝင် နှစ်ဦးနှစ်ဖက် ညှိနှိုင်းခွင့်ရှိစေရမည်။

**စာချုပ်သက်တမ်းတိုးခြင်း**

၁၉။ **"အငှားချထားခြင်းခံရသူ"** သည် ဤသဘောတူစာချုပ် သက်တမ်းကုန်ဆုံးပြီးနောက် အငှားချထားသည့် စက်ရုံ၊မြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦနှင့်စက်ပစ္စည်းများကို ဆက်လက် ငှားရမ်းလိုပါက နောက်ထပ်ငှားရမ်းလိုသည့် ကာလနှင့် ငှားရမ်းခနှုန်းထားများကိုဖော်ပြလျက် စာချုပ်သက်တမ်းတိုးမြှင့်ပေးပါရန် **"အငှားချထားသူ"**ထံ စာချုပ်သက်တမ်း မကုန်ဆုံးမီ (၃)လ ကြိုတင်၍ စာဖြင့်တင်ပြရမည်။ငှားရမ်းသက်တမ်း တိုးမြှင့်ခြင်း ၊ ငှားရမ်းခနှုန်းထား ပြင်ဆင်ခြင်း တို့သည်**စက်မှုဝန်ကြီးဌာန ၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး**၏အတည်ပြုချက်ရရှိမှသာ အတည် ဖြစ်စေရမည်။

**အငြင်းပွားမှုဖြေရှင်းခြင်း**

၂၀။ ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက ထိုအငြင်းပွားမှု ကို ငြိမ်းချမ်းသောနည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက် ဖြေရှင်းကြရမည်။ထိုကဲ့သို့ ဖြေရှင်းမရနိုင်ပါက ဥပဒေနှင့် အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကိုခံယူရမည်။

**သယံဇာတပစ္စည်းဆိုင်ရာကိစ္စ**

၂၁။ ဤစာချုပ်၏ သက်တမ်းအတွင်း ယခုလုပ်ငန်းဆောင်ရွက်သည့် မြေ၏မြေပေါ်မြေအောက် မှ မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ ၊ ရေနံဓါတုဆိုင်ရာပစ္စည်းများ ၊ သဘာဝသယံဇာတ ပစ္စည်းများရှေးဟောင်းပစ္စည်းများ ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့တွေ့ရှိလျှင် ထိုသို့တွေ့ရှိ ကြောင်း **"အငှားချထားသူ"**သို့ ချက်ချင်းအသိပေးအကြောင်းကြားရမည်။ ထိုပစ္စည်းများကို **"အငှားချ ထားသူ"** က ပိုင်ဆိုင်ရမည့်အပြင် **"အငှားချထားသူ"**သည်ထိုပစ္စည်းများကို နိုင်ငံတော်အစိုးရအဖွဲ့သို့ လွှဲပြောင်းတင်ပြရမည်။ **"အငှားချထားသူ"**သည် အဆိုပါသယံဇာတပစ္စည်းများကိုမည်သည့်အချိန် တွင် မဆို လွတ်လပ်စွာ တူးဖော်ပိုင်ခွင့်ရှိစေရမည်။

## ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၂၂။ **"အငှားချထားခြင်းခံရသူ"**သည် ဤသဘောတူစာချုပ်ပါ ငှားရမ်းခြင်းကာလ သို့မဟုတ် စာချုပ်သက်တမ်း ကုန်ဆုံး သည့်အခါ သို့မဟုတ် ရပ်စဲသည့်အခါ ယင်းသို့ကုန်ဆုံးသည့်နေ့ သို့မဟုတ် ရပ်စဲသည့်နေ့မှ (၃၀)ရက် အတွင်း အငှားချထားသည့် စက်ရုံ ၊ မြေ ၊ အဆောက်အဦများ၊ စက်နှင့် စက်ပစ္စည်းများ၊ ဓါတ်ခွဲခန်းသုံးပစ္စည်းများ၊ ရုံးသုံးပရိဘောဂပစ္စည်းများ၊ မော်တော်ယာဉ်များကို **"အငှားချထားသူ"** သို့ ငှားရမ်းကာလ အသုံး ပြုမှုအပေါ်အခြေခံ၍ အဖိုးစားနားမပါဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်း ပေးအပ်ရမည်။ သို့ရာတွင် **"အငှားချထားခြင်းခံရသူ"**မှ သတ်မှတ် ကာလအတွင်း လွှဲပြောင်းခြင်းကိစ္စရပ်အား မပြီးစီးပါကခိုင်လုံသော အကြောင်းပြချက် ဖေါ်ပြ၍စာဖြင့် (၇) ရက် ကြိုတင်တင်ပြ တောင်းခံညှိနှိုင်း ဆောင်ရွက်ရမည်။ ငှားရမ်းပစ္စည်းများအား "အငှားချထားသူ"သို့ ပြန်လည်လွှဲပြောင်း ပေးအပ်ရမည့် နောက်ဆုံးအချိန် ကာလအား ရက်ပေါင်း (၄၅) ရက်ထက် နောက်မကျစေ ဘဲ လွှဲပြောင်းပေးအပ်ရမည်။

## မလွန်ဆန်နိုင်သည့် ဖြစ်ရပ်များ

၂၃။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး ၊ လေဘေး ၊ မီးဘေး ၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ တရားဥပဒေစိုးမိုးရေး နှင့် ငြိမ်ဝပ်ပိပြားမှု ပျက်ပြယ်ခြင်း ၊ စစ်ဖြစ်ခြင်း ၊ သပိတ်မှောက်ခြင်း စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်က လိုအပ်သောသတိဝိရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန် မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက် ဆုံးရှုံး စေလျှင် **"အငှားချထားခြင်းခံရသူ"** သည် **"အငှားချထားသူ"** သို့ နစ်နာဆုံးရှုံးမှု အတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။

၂၄။ ထိုသို့မလွန်ဆန်နိုင်သော ဖြစ်ရပ်များပေါ်ပေါက်ပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ ၁၄ (တစ်ဆယ့်လေး)ရက်အတွင်း **"အငှားချထားခြင်းခံရသူ"**သည် **"အငှားချထားသူ"**သို့ ချက်ချင်း စာဖြင့်ရေးသားအကြောင်းကြားရမည်။ **"အငှားချထားသူ"**က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး စက်ရုံ၊မြေ ၊ အဆောက်အဦများ၊ စက်နှင့်စက်ပစ္စည်း များ၊ ဓါတ်ခွဲခန်းသုံး ပစ္စည်းများ၊ ရုံးသုံးပရိဘောဂပစ္စည်းများ၊ မော်တော်ယာဉ်များကို ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက် သက်ဆိုင်သော ၊ဖြတ် တောက်ကာလအပိုင်းအခြား အတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

**စာချုပ်အတည်ဖြစ်ခြင်း**

၂၅။ ဤသဘောတူစာချုပ်သည် **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"** တို့ လက်မှတ်ရေးထိုးပြီးသည့်နေ့မှစ၍ အတည်ဖြစ်သည်။

**စာချုပ်ပြင်ဆင်ခြင်း**

၂၆။ ဤသဘောတူစာချုပ်ပါစည်းကမ်းချက်များကို ပြင်ဆင်ခြင်း ၊ ပြောင်းလဲခြင်း နှင့် ထပ်မံဖြည့်စွက်ခြင်းပြုလုပ်လိုပါက **"အငှားချထားသူ"**နှင့် **"အငှားချထားခြင်းခံရသူ"**တို့၏ နှစ်ဦး နှစ်ဖက်တရားဝင် စာဖြင့် သဘောတူညီချက် နှင့် **စက်မှုဝန်ကြီးဌာန ၊ စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေး** သို့ တင်ပြ၍ အတည်ပြုချက်ရယူ ဆောင်ရွက်နိုင် သည်။

၂၇။ **"အငှားချထားခြင်းခံရသူ"** မှ စက်ရုံမြေနှင့် ယင်းမြေပေါ်ရှိ အဆောက်အဦနှင့် စက်ပစ္စည်းများအား ငှားရမ်းရာတွင် စီးပွားရေးအရ တွက်ချေကိုက်မှုမရှိခြင်း ၊ အခြားသော အဆင်မပြေမှုများရှိခြင်းကြောင့် နှစ်ဦးနှစ်ဖက်ပြန်လည်ညှိနှိုင်း ဆွေးနွေးရန် (၃)လကြိုတင် အကြောင်းကြားရမည်။သို့ရာတွင် ယင်းဆွေးနွေးသည့်အချိန်မှစ၍ နောင်ထပ်မံ ငှားရမ်းသူရရှိသည့် အချိန်ကာလအထိ လက်ရှိငှားရမ်းခွင့်ရရှိသူမှ စက်ရုံနှင့်ပတ်သက်သည့် စက်ရုံ ငှားရမ်းခ၊ ဝန်ထမ်းလစာနှင့် စရိတ်များ ၊ ပင်စင်ထည့်ဝင်ကြေးများ နှင့် အခြားစရိတ်များအားလုံးကို ကျခံဆောင်ရွက်ပေးရမည်။

**စာချုပ်ရုပ်စဲခြင်း**

၂၈။ စာချုပ်ရုပ်စဲခြင်းနှင့် ပတ်သက်၍ အောက်ပါ အကြောင်းအရပ်များ တစ်ခုခု ဖြစ်ပေါ်လာပါက စာချုပ်ဝင်တစ်ဖက်ဖက်သည် စာချုပ်ကို ရုပ်စဲနိုင်သည်-

(က) မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ပျက်စီးဆုံးရှုံးသွား၍ **"အငှားချထားခြင်းခံရသူ"** အနေဖြင့် လုပ်ငန်းဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း ၊

(ခ) သဘောတူစာချုပ်ပါ စည်းကမ်းချက် တစ်ရပ်ရပ်ကို **" အငှားချထားခြင်းခံရသူ "** မှ ဖောက်ဖျက်ကျူးလွန်ခြင်း ၊

(ဂ) နိုင်ငံတော်၏တည်ဆဲဥပဒေတစ်ရပ်ရပ်ကို **"အငှားချထားခြင်းခံရသူ"** မှ ဖောက်ဖျက်ကျူးလွန်ခြင်း ၊

(ဃ) **"အငှားချထားခြင်းခံရသူ"** က လူမွဲအဖြစ် ခံယူသွားခြင်း ၊

(င) စာချုပ်သက်တမ်းကုန်ဆုံးခြင်း ၊

(စ) စာချုပ်ရုပ်စဲရန် နှစ်ဦးနှစ်ဖက်သဘောတူညီချက် ရရှိခြင်း။

၂၉။ အထက်ပါကိစ္စရပ်များအနက် ကိစ္စရပ်တစ်ခုခုကြောင့် စာချုပ်ရုပ်စဲလိုပါက **စက်မှုဝန်ကြီးဌာန ၊ စီမံခန့်ခွဲရေးကော်မတီအစည်းအဝေး** သို့ တင်ပြခွင့်ပြုချက်ရရှိမှသာ အကျိုးသက်ရောက်မှုရှိစေရမည်။

၃၀။ စာချုပ်ရုပ်စဲခြင်းသည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက်မှ စာချုပ်ပါတာဝန်ရှိမှုများအား အကြေအလည်ညှိနှိုင်း၍ ပြီးပြတ်ရှင်းလင်းပြီးမှသာရုပ်စဲခြင်း ပြီးမြောက် ရမည်။ ယင်းသို့ရှင်းလင်းပြီးပါက စာချုပ်ပါငှားရမ်းထားသောပစ္စည်းများအားလုံးကို **"အငှားချထားသူ"**၏ ပိုင်ဆိုင်မှုသို့ ငှားရမ်းကာလအသုံးပြုမှုအပေါ် အခြေခံ၍ကောင်းမွန်သော အနေအထားဖြင့် အဖိုးစားနားမပါဘဲ အထက်အပိုဒ် (၂၂)ပါအတိုင်းရက်ပေါင်း (၃၀)အတွင်း လက်ဝယ်ပြန်လည် အပ်နှံရောက်ရှိစေရမည်။

**ပြန်လည်ဝင်ရောက်ပိုင်ခွင့်**

၃၁။ **"အငှားချထားခြင်းခံရသူ"** သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန် (သို့) လိုက်နာရန်ပျက်ကွက်ခြင်းကြောင့် **"အငှားချထားသူ"**က ယင်းကဲ့သို့ ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့) လိုက်နာရန် **"အငှားချထားခြင်းခံရသူ"** သို့ အကြောင်းကြားစာ ပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက သက်ဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ **"အငှားချထားသူ"**သည် အငှားချထားသည့် စက်ရုံကို ပြန်လည်ဝင်ရောက်လက်ဝယ်ရယူခွင့်ရှိသည်။ သို့ရာတွင် ယင်းသို့ဝင်ရောက်၍ လက်ရောက်ရယူခြင်းသည် **"အငှားချထားသူ"** က **"အငှားချထားခြင်းခံရသူ"** ထံမှ ရရန်ရှိသော ငှားရမ်းခ (သို့) ပျက်စီးဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းဆိုခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၃၂။ ဤသဘောတူစာချုပ်တွင် ပါရှိသော မြေပုံနှင့်နောက်ဆက်တွဲများသည် စာချုပ်၏တစ်စိတ်တစ်ဒေသဖြစ်သည်။

၃၃။ ဆပ်ပြာစက်ရုံ(မန္တလေး)အား နှစ်ရှည်ငှားရမ်းဆောင်ရွက်ခြင်း သဘောတူစာချုပ်(မူကြမ်း)ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက် ရရှိပြီးပါက ပြင်ဆင် ချုပ်ဆိုဆောင်ရွက်ရမည်။

၃၄။ ဤစာချုပ်သည် နိုင်ငံတော်မူဝါဒအရ ပြင်ဆင်ရန်လိုအပ်ပါက နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ ပြင်ဆင် ချုပ်ဆိုနိုင်သည်။

၃၅။ ဤသဘောတူစာချုပ်အား ၂၀၁၆ ခုနှစ် ၊ လ ( )ရက်နေ့တွင် **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"**တို့ အောက်ပါအသိသက်သေများ ရှေ့မှောက်တွင် လက်မှတ်ရေးထိုး ကြပါ သည် -

| | |
|---|---|
| **အငှားချထားသူ(ကိုယ်စား)** | **အငှားချထားခြင်းခံရသူ(ကိုယ်စား)** |
| **(မြန်မာ့ဆေးဝါးလုပ်ငန်း)** | **(ရွှေတော်ဝင်မြတ်ကုမ္ပဏီလီမိတက်)** |
| | |
| အေးအေးဝင်း | အေးအေးလွင် |
| ဦးဆောင်ညွှန်ကြားရေးမှူး | မန်နေဂျင်းဒါရိုက်တာ |
| | ၁၂ / ပဘတ (နိုင်) ၀၁၈၅၆၄ |

**<u>အသိသက်သေများ</u>**

| | |
|---|---|
| ဒေါက်တာတိုးအောင် | မြတ်ကိုကို |
| အထွေထွေမန်နေဂျာ | ဒါရိုက်တာ |
| စီမံရေးဌာန | နိုင်ငံသားမှတ်ပုံတင်အမှတ် ၊ |
| | ၈ / ရနခ (နိုင်)၀၀၁၄၆၈ |

<u>အသိသက်သေများ</u>

ဖြိုးမြင့်ဆွေ
အထွေထွေမန်နေဂျာ
နည်းပညာဖွံ့ဖြိုးရေးဌာန

စိုးစိုးအေး
အထွေထွေမန်နေဂျာ
ထုတ်လုပ်ရေးဌာန

ကျော်ငြိမ်း
အထွေထွေမန်နေဂျာ
အရည်အသွေးစစ်ဆေးရေးဌာန

စိုးစိုးဦး
အထွေထွေမန်နေဂျာ
ဘဏ္ဍာရေးဌာန

<u>အသိသက်သေများ</u>

အောင်ဇော်ဝင်း
အထွေထွေမန်နေဂျာ
ရောင်းချဖြန့်ဖြူးရေးဌာန

စိုးသန်း
အထွေထွေမန်နေဂျာ
အုပ်ချုပ်ရေးဌာန

ခင်ခင်မြ
လက်ထောက်စက်ရုံမှူး
ဆပ်ပြာစက်ရုံ(မန္တလေး)

# ဘဏ္ဍာရေးအချက်အလက်များနှင့်

# အထောက်အထားစာရွက်စာတမ်းများ

The Manager
Remittance II
Myanma Foreign Trade Bank, Yangon.

Date 22 · 3 · 16

Dear Sirs,

Please collect / purchase/ deposit the following Foreign Currencies / Travellers Cheque / Foreign Exchange Certificate and less bank commission from the proceeds.

**1.** ☐ **Foreign Currencies** ☐ **USD** 100 **331507**

**2.** ☐ **Travellers Cheques** ☐ **EUR**

☐ **OTHER**

**3. FEC (in full)** US Dollar One hundred only

Purpose New Ale

**Please Credit to A/C No.** IDA-04-05256 **AMT:**

**Please Credit to IRD A/C No.** **AMT:**

**Please Issue P.O to** **AMT:**

☐ 3% ☐ 7% ☐ 10%

**Please Issue P.O to** **AMT:**

☐ 3% ☐ 7% ☐ 10%

| Tax | IRD A/C | P.O |
|---|---|---|
| 2% | | |
| 3% | | |
| 7% | | |
| 8% | | |
| 10% | | |

Myanma Foreign Trade Bank
RECEIVED CASH
US$ 100
T.Z.H C(4)

Signature
Name DAW AYE AYE LWIN
Passport No/N.R.C No. MANAGING DIRECTOR
Address GOLDEN ROYAL MYAT CO.,LTD.
Phone No.

UAB

# United Amara Bank Ltd.

**PA ZUN DAUNG Branch**

Print Date : March 21, 2016

A/c No. : 036070100000786

A/cType : Super Call Deposit

Currency : MMK

Name : AYE AYE LWIN THAN AUNG

NRC No.: 12/PABATA(N)018564 12/PABATA(N)006801

NO(163), 47 ST, BOTAHTAUNG, YANGON, MYANMAR

Date From : 01/12/2015 Date To : 21/03/2016



| SNo | TranDate | Desc | T/C | Debit | Credit | Balance |
|---|---|---|---|---|---|---|
| 1 | 21/12/2015 | CNT - CD | CD | | 30,000,000.00 | 30,000,000.00 |
| 2 | 23/12/2015 | CHEQUE | CD | | 39,246,600.00 | 69,246,600.00 |
| 3 | 23/12/2015 | CASH | CD | | 52,500,000.00 | 121,746,600.00 |
| 4 | 29/12/2015 | kbz | CD | | 735,000.00 | 122,481,600.00 |
| 5 | 29/12/2015 | kbz-2 | CD | | 5,750,000.00 | 128,231,600.00 |
| [illegible] | 29/12/2015 | kbz-3 | CD | | 1,995,600.00 | 130,227,200.00 |
| 7 | 29/12/2015 | kbz-4 | CD | | 1,100,000.00 | 131,327,200.00 |
| 8 | 29/12/2015 | kbz | CD | | 1,352,500.00 | 132,679,700.00 |
| 9 | 29/12/2015 | kbz | CD | | 1,800,000.00 | 134,479,700.00 |
| 10 | 29/12/2015 | kbz | CD | | 5,159,300.00 | 139,639,000.00 |
| 11 | 29/12/2015 | kbz | CD | | 1,423,320.00 | 141,062,320.00 |
| 12 | 29/12/2015 | kbz | CD | | 2,100,300.00 | 143,162,620.00 |
| 13 | 29/12/2015 | kbz | CD | | 8,470,000.00 | 151,632,620.00 |
| 14 | 29/12/2015 | AYA | CD | | 7,095,000.00 | 158,727,620.00 |
| 15 | 29/12/2015 | AYA | CD | | 1,200,000.00 | 159,927,620.00 |
| 16 | 29/12/2015 | AYA | CD | | 600,000.00 | 160,527,620.00 |
| 17 | 29/12/2015 | AYA | CD | | 10,300,000.00 | 170,827,620.00 |
| 18 | 29/12/2015 | AYA | CD | | 1,000,000.00 | 171,827,620.00 |
| [illegible] | 29/12/2015 | AYA | CD | | 24,800,000.00 | 196,627,620.00 |
| 20 | 29/12/2015 | GTB | CD | | 3,437,500.00 | 200,065,120.00 |
| 21 | 29/12/2015 | GTB | CD | | 5,000,000.00 | 205,065,120.00 |
| 22 | 29/12/2015 | MOB | CD | | 1,430,000.00 | 206,495,120.00 |
| 23 | 29/12/2015 | CB | CD | | 10,725,000.00 | 217,220,120.00 |
| 24 | 29/12/2015 | CB | CD | | 1,534,000.00 | 218,754,120.00 |
| 25 | 29/12/2015 | MAB | CD | | 600,000.00 | 219,354,120.00 |
| 26 | 30/12/2015 | KBZ(STK) | CD | | 5,400,000.00 | 224,754,120.00 |
| 27 | 30/12/2015 | YOMA(LMD) | CD | | 3,200,000.00 | 227,954,120.00 |
| 28 | 30/12/2015 | TFB(KTD) | CD | | 13,000,000.00 | 240,954,120.00 |
| 29 | 30/12/2015 | CB(HO) | CD | | 4,584,000.00 | 245,538,120.00 |
| 30 | 30/12/2015 | AYA (PARAMI) | CD | | 3,410,000.00 | 248,948,120.00 |
| 31 | 30/12/2015 | KBZ(LMT) | CD | | 37,500,000.00 | 286,448,120.00 |
| 32 | 30/12/2015 | KBZ(SD) | CD | | 2,000,000.00 | 288,448,120.00 |

United Amara Bank Ltd.

UAB

PA ZUN DAUNG Branch

Print Date : March 21, 2016

A/c No. : 036070100000786

A/cType : Super Call Deposit

Currency : MMK

Name : **AYE AYE LWIN** **THAN AUNG**

NRC No.: **12/PABATA(N)018564** **12/PABATA(N)006801**

NO(163), 47 ST, BOTAHTAUNG, YANGON, MYANMAR

Date From : 01/12/2015 Date To : 21/03/2016



| SNo | TranDate | Desc | T/C | Debit | Credit | Balance |
|---|---|---|---|---|---|---|
| 33 | 30/12/2015 | KBZ(SGD) | CD | | 13,750,000.00 | 302,198,120.00 |
| 34 | 30/12/2015 | AutoLink 036010100000836 | TW | 164,300,000.00 | | 137,898,120.00 |
| 35 | 31/12/2015 | Int from : 21/12/15 to :31/12/15 Normal Int | TD | | 292,266.51 | 138,190,386.51 |
| 36 | 01/01/2016 | Cheq-0348676 036-022010100001328 | TD | | 7,046,850.00 | 145,237,236.51 |
| 37 | 01/01/2016 | AGD BYN | CD | | 500,000.00 | 145,737,236.51 |
| 38 | 01/01/2016 | AYA-LMD | CD | | 8,200,000.00 | 153,937,236.51 |
| 39 | 01/01/2016 | KBZ-BYN | CD | | 1,175,000.00 | 155,112,236.51 |
| 40 | 01/01/2016 | MOB-LMD | CD | | 1,430,000.00 | 156,542,236.51 |
| 41 | 01/01/2016 | GTB-YUZANA PLZ | CD | | 2,800,000.00 | 159,342,236.51 |
| 42 | 01/01/2016 | GTB-SHWETAUNGTAN | CD | | 14,413,000.00 | 173,755,236.51 |
| 43 | 01/01/2016 | YOMA-LMD | CD | | 4,441,000.00 | 178,196,236.51 |
| 44 | 01/01/2016 | CB-LMD | CD | | 1,330,000.00 | 179,526,236.51 |
| 45 | 01/01/2016 | CB-THANZAY | CD | | 1,500,000.00 | 181,026,236.51 |
| 46 | 01/01/2016 | CB-HO | CD | | 1,700,000.00 | 182,726,236.51 |
| 47 | 01/01/2016 | CB-MGLZ | CD | | 1,100,000.00 | 183,826,236.51 |
| 48 | 05/01/2016 | 12-005 160101D053 | CLD | | 74,880.00 | 183,901,116.51 |
| 49 | 06/01/2016 | CNT - CD | CD | | 91,000,000.00 | 274,901,116.51 |
| 50 | 06/01/2016 | CB-(LMD) | CD | | 1,000,000.00 | 275,901,116.51 |
| 51 | 06/01/2016 | CB(LMD-TANZAY) | CD | | 1,900,000.00 | 277,801,116.51 |
| 52 | 06/01/2016 | CB(SBGG) | CD | | 2,500,000.00 | 280,301,116.51 |
| 53 | 06/01/2016 | AYA(YGN-35LTA) | CD | | 7,000,000.00 | 287,301,116.51 |
| 54 | 06/01/2016 | GTB(STT) | CD | | 3,382,500.00 | 290,683,616.51 |
| 55 | 06/01/2016 | KBZ(S-DAGON) | CD | | 1,352,500.00 | 292,036,116.51 |
| 56 | 06/01/2016 | KBZ(AHLONE) | CD | | 1,485,200.00 | 293,521,316.51 |
| 57 | 06/01/2016 | MAB(BYN) | CD | | 7,014,150.00 | 300,535,466.51 |
| 58 | 06/01/2016 | TFB(KTD) | CD | | 3,000,000.00 | 303,535,466.51 |
| 59 | 06/01/2016 | YOMA(LMD) | CD | | 4,800,000.00 | 308,335,466.51 |
| 60 | 06/01/2016 | AutoLink 036010100000836 | TW | 100,000,000.00 | | 208,335,466.51 |
| 61 | 11/01/2016 | CNT - CD | CD | | 87,000,000.00 | 295,335,466.51 |
| 62 | 11/01/2016 | CB-BYN | CD | | 44,000,000.00 | 339,335,466.51 |

